အမျိုးသားပညာဝန် **ဦးဖိုးကျား** စီရင်ရေးသားသည့်

# ပေါရာဏအဘိဓါန်



မြန်မာ့ဂုဏ်ရည်စါအုပ်ဌာန

အမှတ်-၁၇၈-ကါလဘတ်လမ်းကန်တော်ကလေး

ရန်ကုန်မြို့

# နိဒါန်း။

နမောတဿဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

---

အကျွန်ုပ်သည်။ရတနာသုံးပါး။ ဆရာသမားတို့အား၊ ရှိသေမြတ်နိုးရှိခိုးပါ၍၊ရှိခိုးပြီး၍၊ **ပေါရာဏအဘိဓါန်**ကို စီရင်ရေးသားပါအံ့။ ။ရေးသား ရသော အကြောင်း ကားဤသို့တည်း။

၁၂၇၇-ခုနှစ်လေ၀ံဆီက၊ အကျွန်ုပ်သည် ပုသိမ်မြို့၊ တိုင်တာရာကျောင်းခေါ်၊ မြန်မာကရင် အင်္ဂလိပ်ကျောင်း (၈)တန်းတွင် နေစဉ်က၊ မဟာဇနက ဇာတ်တော်ကြီး ဝတ္ထုကို သင်ကြားရ၏။ ထိုအခါ၊ မဟာဇနကမင်းကြီး တော ထွက်ခါနီး နန်းပြသာဒ်များကိုချီးမွမ်းခန်း၌ (ငါ၏ နန်းတော် ပြာသာဒ်တို့သည်။—မှန်ကင်း၊တုရင်၊ဝုလစ်အ မွန်း၊ထုပိကာတို့ဖြင့်တန်ဆာဆင်အပ်သည်ဖြစ်၍၊ အလွန် တင့်တယ်၏)ဟုပါရှိရာ၊ထုပိကာဆိုသောအရာကိုမသိ၍၊ စုံစမ်းမေးမြန်းရန် အလို့ငှါ၊ ပုသိမ်မြို့ ရွှေမုဋ္ဌောကုန်း တော်သို့ သွားရောက်ပြီးလျှင်၊ လူကြီး ၂-ဦး ၃-ဦးသို့ ကပ်ခါ၊ တန်ဆောင်း ပြာသာဒ်များကိုပြ၍၊ မေးမြန်းပါ သည်။မသိသောသူများနှင့်တွေ့ကြုံရလေရကား။ နှစ်ရက် ဆက်၍သွားရ၏။ ဒုတိယနေ့မှ။ အသက် ၄၀-ရွယ်တဦး ကညွှန်ပြပေသောကြောင့်၊ ထုပိကာဆိုသော အရာကို၊ တွေ့မြင်[illegible]သွားခဲ့ရဘူးသည်။

# နိဒါန်း။

ထိုအခါ၊အကျွန်ုပ်စဉ်းစားလိုက်သည်ကား၊ အင်္ဂလိပ် များမှာအဘိဓါန်ရှိ၍ မသိသောစကားများ၏ အဓိပ္ပါယ်ကို အလွယ်တကူနှင့် သိနိုင်၏၊ ငါတို့မှာကား၊ မြန်မာအဘိဓါန်သက်သက်မရှိသေး၍။ ဤသို့အခက်အခဲနှင့်တွေ့ရသည်။ ၊သို့ငှာ–

(၁) မြန်မာအဘိဓါန်သက်သက်တခုရှိရမည်။

(၂) ငါပင်တတ်နိုင်သမျှကြိုးစား၍ရေးမည်။

(၃) ဤသို့သော အဘိဓါန်တခု ဖြစ်မြောက်အောင်မြင်ရန်မှာ ငါ၏တသက်တွင်။ရည်ရွယ်ချက်အကြီးဆုံးတခု ဖြစ်စေရမည်။-

ဟူ၍ စိတ်တွင်ဆုံး ဖြတ်ခဲ့ပါသည်။ ။ထိုအခါ ကစ၍ မြန်မာစကား အရပ်ရပ်တို့ကို၊ ရှာဖွေစုဆောင်း သိမ်းလာခဲ့သည်မှာ။အတန်ပင်ရရှိလေပြီ။

ဤအတောအတွင်း၊ အမျိုးသား ကျောင်းများ ပေါ်ပေါက်လာရာ (၁၂၈၂-ခု) မြန်မာ ပျို့ကဗျာလင်္ကာများကိုအားပေးသင်ကြားစေရာ၌။ပေါရာဏကထာဟူသော မြန်မာစကားဟောင်း များစွာပါဝင်လေသည်။ ကျောင်းသားသူငယ်တို့မှာ။ဤသို့သောစကားခက်တို့၏ အဓိပ္ပါယ်ကို သိလို၍ ရှာဖွေကြမည် ဖြစ်ရာ၌၊ ထုပ်ကာဏ်ကိုတွေးမိ၍၊ ကိုယ်ချင်းစာလှသည်။

ဤတွင်။ပေါရာဏစကားများ၏ အဓိပ္ပါယ် ကိုသိရှိနိုင်ရန်၊ ကျမ်းအစောင်စောင်နှင့်အဘိဓါန်များပင်ရှိ၏။ သို့ရာ

တွင်ကျောင်းသားသူငယ်တို့အတွက် ခဲခက်ရန်ရှိသည်ဟု ထင်မိ၏။ ။ရှိဟန်ကား။

(၁) ရှင်မဟာသီလဝံသ စီရင်တော်မူသော ပေါရာဏကထာလင်္ကာဟောင်း။ (၈၁၅-၈၈၀-ခု။ ။ဒုတိယမင်းခေါင်နှင့်သားတော်ရွှေနန်းကြော့ရှင်တို့ လက်ထက်)၊ ဤလင်္ကာမှာ ပေါရာဏ စကားတို့ကို။ တစုံတရာအစီအစဉ်မထားဘဲ။ ရောမွှမ်း၍ရေးထားသဖြင့်။ တစောင်သုံးကိုနှုတ်တက်ရမှ အသုံးလွယ်ပေမည်။

(၂) တွင်းသင်းတိုက်ဝန် မဟာစည်သူ စီရင်တော်မူသောတွင်းသင်း ပေါရာဏကထာ။ (၁၁၅၆-ခု။ ဘိုးတော်ဦးဝိုင်းလက်ထက်)။ ။ဤကျမ်းမှာ စကားပြေဖြင့် ပေါရာဏစကားတို့၏အဓိပ္ပါယ်ကိုပြ၍၊ ဥဒါဟရဏ်များ ပင်ပါပေသည်။သို့ရာတွင် အက္ခရာအစဉ်အတိုင်း မထားရကား။အရှာအဖွေမလွယ်ကူချေ။

(၃) အထက်ပါကျမ်းကို အမှီပြု၍၊ နောက်ဆရာတို့ ရေးသားအပ်သော ပေါရာဏကထာ လင်္ကာသစ်၊ ။ မှာရှင်မဟာသီလဝံသ လင်္ကာဟောင်းကဲ့သို့ပင် ရှိသည်။

(၄) ဆရာတော် ဦးမဏိ စီရင်အပ်သောပေါရာဏကထာ။ (၁၁၉၇-ခု ဘကြီးတော်လက်ထက်-)။ဤကျမ်းမှာ။ပါဠိဘာသာဖြင့်ဖြစ်၍၊မလွယ်ကူချေ။

(ဃ) နိဒါန်း။

(၅) မောင်းထောင် ဆရာတော်ဘုရား စီရင်တော်မူအပ်သော၊ ပေါရာဏ ကထာပါဠိ။ (မင်းတုန်းမင်းကြီးလက်ထက်)။ ။ဤကျမ်းမှာလည်း ပါဠိ ဘာသာဖြင့်ဖြစ်သည်။နိဿယသော်ကားရှိ၏ရှင့်။ သို့ရာတွင်အက္ခရာ အစဉ်အတိုင်းမဟုတ်ပြန်သဖြင့်၊ ကြည့်ရှုရှာဖွေရန် မလွယ်ကူချေ။

(၆) အထက်ပါ မောင်းထောင် ပေါရာဏကထာပါဠိကိုအကျယ်ဖွင့်၍။ သစ်ဆိမ့်ဆရာတော်ဘုရား စီရင်တော်မူအပ်သောပေါရာဏကထာဋီကာ။(ပုဂံ၊မင်းတုန်း၊သီဘော၊ မင်းသုံးဆက် လက်ထက်)။ ။ဤကျမ်းမှာပါဠိဘာသာသက်သက်ဖြင့်ရှိ၍မလွယ်ကူချေ။

(၇) ကင်းဝန်မင်းကြီး စီရင်တော် မူသော ပါရမီခန်းပျို့ အဖြေချုပ်နှင့်ပက်ဏ္ဍာကပေါရာဏကထာ။(စာပြီးသက္ကရာဇ်၁၂၅၁-ခု)။ ။ဤကျမ်းမှာအက္ခရာစဉ်အတိုင်းမဟုတ်။

(၈) ရန်ကုန်မြို့ လွှတ်တော်စာရေးကြီး ဦးစံဘစီရင်သည့်၊ပျို့ကဗျာခက်ဆစ်ကောက်နုတ်ချက်(ပုံနှိပ်၁၂၇၅-ခု)မှာ၊အစအဆုံးရှာချင်းတူသောစကားများကိုတစုတစုပြု၍ပြသဖြင့်။ ရှေးကျမ်းများထက် အရှာ လွယ်ပေသည်။ သို့ရာတွင်။က၊ကာ၊ကိ၊ကီ၊ကု၊ကျ၊ကြ၊ကွ။ ..... စသည်ဖြင့်။ အစဉ်အတိုင်း စီထားသည်မဟုတ်ရကား။ အရှာမလွယ်ကူလှသေးချေ။

(၉) ပါဠိဆရာဦးဖြေရေး။ ပေါရာဏ မူလကထာ အဘိဓါန်(စာပြီး-၁၂၅၄=၃)။ ။မှာ၊ အက္ခရာအစဉ် အတိုင်း ထားလာ၍။အရှာလွယ်ချေပြီ။သို့ရာတွင်၊စကား တိုင်း၏အဓိပ္ပါယ်ကို ပြရုံသာမဟုတ်၊ ဥဒါဟရဏ်ဆောင် ပုဒ်များကိုပါပြသဖြင့်။ ကျောင်းသား သူငယ်တို့အတွက်၊ ကျမ်းလေးသည်ဟုသဘောရ၏။

(၁၀) ပါဠိဆရာကြီး ဦးဖေမောင်တင် စီရင်သော ပေါရာဏအဘိဓါန်။ ။မှာ၊အထက်နံပါတ် ၉ ကဲ့သို့ပင် ရှိသည်မှတပါး။ ကျမ်းစာအုပ်ဖြင့်မဟုတ်။ သုတေသန အသင်းက ထုတ်ဝေသော ဂျာနယ်တွင်သာ ရှိသဖြင့်။ စာအုပ်ရရန် မလွယ်ကူချေ။ (**The Journal of the Burma Research Society, Vol. V, Part II, August, 1915, Rs. 2.**)

အထက်ပါအကြောင်းတို့ငှ့်။ကျောင်းသားသူငယ်တို့ အတွက်၊ အရှာအဖွေလွယ်၍၊ အဓိပ္ပါယ်ကို ဖြတ်ချည်း သိနိုင်ရန်။အက္ခရာအစဉ်အတိုင်းရှိသော ဥဒါဟရဏ်များ စွာမပါသောကာလဆန်သော-ပေါရာဏ အဘိဓါန်တခု လိုအပ်လေသည်။

ယခင်ဆိုခဲ့သော အကျွန်ုပ်မှန်းထားသည့် မြန်မာအဘိ ဓါန်တွင်၊ ၎ပေါရာဏ စကား များလည်း ပါမည်မှန်၏။ သို့ရာတွင်။၎င်းအဘိဓါန်မှာ မကြာမီအတွင်း ပြီးနိုင်မည်

# နိဒါန်း။

ပြောတ်ရကား။ ပေါရာဏစကားများကိုသာ ရွေးထုတ်၍၊ မြန်မာအဘိဓါန်၏ အစိတ်အပိုင်း အနေနှင့်၊ ဤပေါရာဏ အဘိဓါန်ကို အမြန်ရေးထုတ် လိုက်ခြင်းဖြစ်ပါသည်။

ဤအဘိဓါန်ကိုရေးရာ၌။အထက်ပါကျမ်းဆယ်ကျမ်း ကိုအမှီပြုကာရေးသည့်မှတပါး။မိမိကိုယ်တိုင် စုံစမ်းရှာ ဖွေအပ်သော ရှေးနည်းစာ ကလေးများလည်း ပါပါ ကြောင်း။

အကျွန်ုပ်အား ညွှန်ပြ - ကူမပေသော ဆရာကြီး သရာလွန်း အားလည်း များစွာ ကျေးဇူးတင်ပါကြောင်း ပေါ် ပြလိုက်ရပါသည်။

၁၂၈၈ ခု၊ ပြာသိုလ။ မောင်မိုးကျော်

# ပေါရာဏကထာ။

(ရှေးစကား)

ပေါရာဏကထာဆိုသည်မှာ။ အလွန် ရှေးကျသော မြန်မာတို့ သုံးစွဲသည့် စကား များဖြစ်၏။ မည်မျှရှေးကျသနည်းဆိုသော်။သက္ကရာဇ် ၁၀၀ ကျော်တွင် ပေါ်ပေါက်သောရှင်မဟာသီလဝံသတို့ လက်ထက် မှာပင်။ စကားဟောင်းဟုခေါ် ရ၍၊ အတန်ပင် နက်နဲသောငွေ၊ အများတို့သိနိုင်စေရန် လက်ာစပ်ဆိုကျမ်းပြုရလေသည်၊

ပေါရာဏကထာဆိုသောစကားများကို ဝိစစ်ကြည့်သောအခါ၊ မြန်မာစကားအစစ်မဟုတ်သော စကားများစွာတွေ့ရ၏။အထူးသဖြင့်။သင်္ကရိုက်၊ပါဠိ၊မွန်တလိုင်းစသောစကားတို့ကဆင်းသက်သောစကားများဖြစ်၏။ ၊ ဥပမာ၊ပြဒိုဠ်-သင်္ကရိုက်ကလာ၏။ကမ္ဗနား(=ကပဏ)၊ မောသော,မုဒိန်း(=မုဒိင်္ဂ)တို့မှာ ပါဠိကလာ၏။ စရည်း စသည်တို့မှာ မွန်တလိုင်းကလာ၏။

ထိုမှတပါးလည်း။ ပေါရာဏကထာ အချို့တို့မှာ။ မြန်မာစကားစစ်များကိုပေါင်းစပ်ထားသောသမာသ်ပုဒ် များသာဖြစ်၏။ ဥပမာ။ ဦးလေး=(ဦး+လေး)။ ဦးရစ်=(ဦး+ရစ်)။ထံလား=(တံ+လား) စသည်တို့ဖြစ်၏။

မှတ်ရန်ကား။ မြန်မာစကားစစ်တို့မှာ။ အသံတချက်ထွက်သာ ရှိသည်ဟုယူရာ၏။ထို့ငြင့်။ အသံတချက်ထွက်ထက်ပိုသော စကားတို့ကို ဗိစစ်လျှင်။ အခြားဘာသာသော်၎င်း၊သမာသ်ပုဒ်သော်၎င်းဖြစ်တတ်၏။သို့ပါ၍။ မြန်မာသူငယ်တို့သည်။ မိမိတို့ဘါသါစကားစာပေကျမ်းဂန်တိုးပွားရန်အတွက်။ နိုက်နိုက်ချွတ်ချွတ်ရှာဖွေသင်းကြာကြ၍အကျိုးများရာများကြောင်း ဆောင်ရွက်ကြပါကုန်။

---

# မြန်မာစာ အကျဉ်းရေးနည်း။

မြန်မာစာရေးရာ၌၊ အချိန်နည်းခြင်း၊ အရေးရနည်းခြင်း၊စရိတ် နည်းခြင်းရှိ၍၊ လိုရင်းအချက် ပြီးနိုင်သော၊ ရှေးဆရာကြီးများ ရေးလေ့ ရှိသော၊ အကျဉ်းရေးနည်းများကိုအောက်၌ဖော် ပြလိုက်ပါသည်။

၁။ သ် = သည်။
၂။ ၏ = ယော့ = အယော့ = ညော့ ( ယ = ည ) (ယခု၏)
၃။ ၍ = ရွယ့် = ရွေ့။ (ယခု၍)။
၄။ ၎င်း = ၎င်း = ၎င်း = ၄ငေး = လေးကောင်း = (ယခုလည်းကောင်း)။
၅။ ၌ = နှိုက်။
၆။ ယောက်ျား = ယောက်ကျား။
၇။ ရော့ံ = ရောက်
၈။ လွှံ = လက်နက်
၉။ အွှံ = အနက်
၁၀။ သွေ့ံ = သွေးသောက်
၁၁။ လုင် = လုလင်
၁၂။ နံ့က် = နံနက်။
၁၃။ ခြီး = ခရီး။

(၇ မှ ၁၁ အထိ) (သေးတင်) နှင့် (ကသတ်) အသံတူသည်များ။ မွန်တလိုင်း အရေးအသားနည်းဖြစ်၏။

# (ည) မြန်မာစာအကျဉ်းရေးနည်း။

၁၄။ ဆြာ = ဆရာ။
၁၅။ တြား = တရား။
၁၆။ သ္မီး = သားသမီး။
၁၇။ လိမ္မာ = လိမ်မာ
၁၈။ လိံမာ = လိမ်မာ
၁၉။ ကျမ်း = ကျမ်း

{ (သေးတင်)နှင့် (မသတ်) သဘော တူဖြစ်သည်။ }

၂၀။ ၀ဲ { ဝယ်(အဲ၊အဲ့၊အဲး=ကာရန်၆၄ ပါးနှင့်အညီ ဖြစ်သည်(နောံပစ်)နှင့်(ယသတ်)အသံတူ }

၂၁။ ခင်ဗျား=ခင်ဗြား=ခင်ဗရား=ခင်ဗျာား=ခင်ဘုရား =သခင်ဘုရား=သ္ခဘုရား= သိခင်ဘုရား = သိခင် ဗုရား= သိခင်ဒုရဟား= သိခင်ပုရဟား။

၂၂။ ဖြ = သော။
၂၃။ ငြေ့ = ကြောင့်။
၂၄။ ခင်း = ကောင်း။
၂၅။ ယ္ခု = ယခု။
၂၆။ ကို = ကိုဝ်။
၂၇။ လထ္က = အထက်က။
၂၈။ လ္ထက် = လက်ထက်။
၂၉။ တ် = တော်။
၃၀။ လကွဲ = လက်ဲ။

အခြားရေးနည်းများလည်း ရှိကုန်သေး၏။ အထက်၌ ပြခဲ့သည့်တို့ကား၊ ပုံစံများသာဖြစ်၏။ နံပါတ် ၁-ကိုမှီ၍။မှိ၊ တ်ုး၊လ်ုး၊နှ်ုး၊စသဖြင့်ရင်း။ ၇--ကိုမှီ၍။ကောံ၊မှောံ၊စသည့် ဖြင့်ရင်း။ ၂၀--ကိုမှီ၍။ကဲ၊ဆဲ၊လဲ၊စသည်ဖြင့်ရင်း။ ၂၉--ကို မှီ၍၊ ပ်၊ မ်၊ စသည်ဖြင့်ရင်း၊ ရေးနိုင်ရာ၏။

အနည်းငယ်နေ့ခံထပ်၍ကြံရန်ကား။ ။နံပါတ် ၂၇(တ်) ကိုနေရာတိုင်း၌သုံး၍မရ၊ဥပမာ(သွားတ်မှု၏)၌ကား ဖတ် ရန်လွယ်၏။ သို့ရာတွင်(ပြုတ်မှု၏)၌ကား။ (ပြုတော်မှု၏၊ မဖတ်ဘဲ။ (ပြုတ်မှု၏) ဖတ်မည့်ကိုစိုးရိမ်ရန်ရှိ၏။သို့ငွေ့ ရင်း(အသတ်လက္ခဏာ) ကို နောက်ပစ်နှင့် တဖက်ပြု၍ (∠)ဤကဲ့သို့ လက္ခဏာကို သုံးဘိမှုကား။ နေရာတိုင်း အကျွရာတိုင်းနှင့် သုံးနိုင်ပေလိမ့်မည်။



# ပေါရာဏအဘိဓါန်။

## က

**က** ........ ........ ကုန်း။ ကုန်းနှီး။ ။မြင်းနွားစသည်တို့ကို၊ ဆိုင်ရာတန်ဆာများ ဆင်ပေးသည်။ ။လှည်းရထား စသည်တို့၌ မြင်းနွားစသည်များကို တပ်သည်။

**ကစိုကရွား။**
**ကစိုကဝါး။** } ......ကသီကရိ။

**ကညောင်း** ........ ကုန်းနောက်။ (ကုန်းနှီး၏ နောက်ပိုင်း။)

**ကနား** ........ ........ သမျှ။ (ပြုမိကနား=ပြုမိသမျှ)။

**ကနု** ........ ........ နှိုင်းယှဉ်သည်။

**ကယုကယင်** ........ လျှော်ပတ် တင့်တယ်သည်။ ။ချောမောလှပအောင် တန်ဆာဆင်သည်။

**ကရည့်ကသီ**
**ကရဲ ကသီ** } .......မညီမညွတ်၊ ချွတ်ယွင်းဖွာ။

**ကရို့ကရွား** ...... ကစို့ကရွား။

**ကလန့်** ...... ...... တရွာ၌ ကြီးကဲသောအမတ်- အရာရှိ။

**ကလူကစ** ...... နှိပ်စက်- ညှဉ်းပန်း- ညှဉ်းဆဲသည်။

**ကလေးကလား**- ကျကျနန မဟုတ်။ မသေ မချာ။ ပေါ့တော့တော့။ မရေမရာ။

**ကလျှစ်ကလျူ။** – ယုယုယယ-မှုမှုရာရာပြုသည်။

**ကလွှဲကလက်** ...... အဖက် မတော် မတော် မလျော်၊ ခဆီ မဆိုင်။

**ကသယ်မှုန့်** .. ... လိမ်းစရာ၊ ရေချိုးပြီး လိမ်းစရာ၊ မျက်နှာချေ။

**ကသီကရို** ...... ရှုပ် ရှုပ် ထွေး ထွေး၊ မ နိုင် မ နင်း။ ဆင်းရဲ ပင်ပန်းစွာ။

**ကသီလင်တ** ...... ဆင်းရဲသည်။

**ကဦး** ...... ...... ကုန်းရှေ့ (ကုန်းနှီး၏ အရှေ့ပိုင်း။ ကုန်းနှီးအဓမ။)

**ကတ်** ...... ...... စေတီတိပ်၌ အနုဆာလံသော ခံတောင်းကြီး။ ။စပါး ၂၅၆ တင်းဝင် ထည့်စရာ ပုတ်ကြီး၊ (ဂါထာနုလက်ခ)။

**ကက်ခ (ဂဏ်ါ)** ...... မျက်မှောက်။ မျက်မြင်။ ထင်ရှားစွာ အထင်အလင်း။

**ကတ်လတ်** ...... ကန့်လန့်၊ ဖီလာ။

**ကန့်ထောင်** ...... လယ်သေဝံကန်၊ လယ်ဦးလယ်ထိပ်၌ ရှိသော တာဖက်ဆည်ကန်။

**ကန့်ဗိုင်** ...... ...... ကန်ပေါင်ရိုး၊ ကန်ရိုး။ ကန်သင်း။

**ကပ်ပါး** } ဒိဋ္ဌိရာအတည်မရှိသောသူ၊ဆင်းရဲသား၊(ပါဠိ-ကပဏ)။
**ကပ္ပနာ။ ကပ္ပနား** }

**ကပ်လပ်** ...... ...... အမြဲမကွာ။

**ကမ်းတောင်း**...... ကမ်းပါး။

**ကယ်** ...... ...... အများ။ ။များသည်။

**ကိ** ...... ...... ...... ကျို။

**ကိလိတ်** ...... ...... ဖွဲ့ယှက်သည်။ (ပါဠိ-ကိလိတ)။

**ကိတ်ကိတ်** ...... မဖိတ်မစင်ရ၊ ချုပ်ချယ်သည်။

**ကိန်နို** ...... ...... ကျိန်ဆိုသည်။

**ကိန်း** }
**ကိန်းဝပ်** } ...... နေ—ပျော်စံနေသည်။

**ကုလေးကုလား-** ကလေးကလား။

**ကုတ်ကော်** ...... နှက်နှဲခဲယဉ်းသည်။

**ကုတ်သဲ** ...... ...... ပြေပပ်ကြား မရှိအောင် ဖို့ညှိသည်။ ပြေ ညီ ညွတ် အောင် ပြုသည်။ ပြေမှိ ညှိသည်။ ပြေညီညွတ်သည်။

**ကုန်း** ...... ...... ...... ကုန်းမြေ။ မြင်းကုန်းနှိုး။ ။ကိုင်း ညွတ်သည်။

**ကုန်းမခေါ** ...... ကုန်းမြေညီဩွတ်သည်။
**ကုပ်ရှိ** ...... ...... ဝန်တိုသည်။
**ကုပ်သေ** ...... ...... မထင်မရှား ပုန်းအောင်းနေသည်။
**ကူဟာ** ...... ...... ကဝါသည်။ ( ယခု– ခဝါသည်ဟု ရေး–ခေါ်ကြသည်)။
**ကူးလူး** ...... ...... ရောနှောဆက်ဆံသည်။
**ကဲ** ...... ...... ...... လွန်– ပိုသည်။ ။အကဲ။ ပုံပန်း သဏ္ဍာန်၊ လက္ခဏာအခြေအနေ။
**ကော** ...... ...... တိမ်မြုပ်သွားသည်။ ။အကျိုးမရှိဖြစ် သွားသည်။ ။မရှမရှိလိုက်။ ။အလ ကားဖြစ်သွားသည်။
**ကောက်ကစင်း**– ခရီးလမ်းစဉ်၊ ခရီးလမ်းစဉ် တလျှော် လမ်း၊(ယခု-ကောက်ကောက်စင်းစင်း ခေါ်သည်။ ပုံအနေဲဖက်နယ်နိမိတ်မှာ ရောဝတီမြစ်ကော်ကော်စင်းစင်း။ ။ အမိပ္ပါယ်ကား။ ရောဝတီမြစ်ကြောင်း အလိုက်၊ ကော်လျှင် ကော်သည့်အ လျော်။ စင်းလျှင်စင်းသည့်အလျောက်)
**ကောင်းတေ** ...... ကောင်းမြတ်သော။ ။ကောင်းမြတ် သောသဘော။
**ကော်ရော်** ...... အရှိ အသေ ပြုသည်၊ ပူ ဇော် ကန် တော့သည်။

**ကံကျေး** ........ ........ အခ။ ။ရိက္ခ။ ။စားရန် ပေး
သော မြို့ကျေးရွာ။

**ကံမြစ်** ...... ဆုံးမသည်။

**ကိုး** ...... အားထား- ကိုးစား- မှီခိုသည်။ ။
နတ်ကိုးကွယ်သည်။ ။နတ်တင်သည်။
နေ့ခင်းတနေ့နေ့ နတ်တင်ပ ပါမည်ဟု
ကတိပြု၍ ပိုက် ဆံ စ သည် တို့ ကို
တင်ထားနှင့်သည်။

**ကိုးကား** ...... ...... အတင့်အတယ် အာသရဲဆောင်သည်။

**ကိုင်ကန်** ...... ...... ရေတွက်- မှတ်သားသည်။

**ကိုယ်ရင်ကျည်** – ကိုယ်ညစ်နွမ်း ပင်ပန်းသည်။

**ကိုယ်အမ်းချ** ...... ကိုယ်တိုင်အားထုတ်သည်။

**ကုံ** }
**ကုံကယ်** } ...... အများ။ ။များသည်။

**ကုံင** ...... ...... ...... ပြည့်စုံသည်။ ။အများ။

**ကုံတန်** ...... ...... ပြည့်စုံကြွယ်ဝသည်။

**ကုံလုံ** ........ ...... ပြည့်စုံသည်။

**ကုံး** }
**ကုံးချော** } ........ ဂုဏ်-ကြည့်။
**ကုံးတိုက်** }

# ကျ

**ကျက်လေ့** ........ အလေ့အကျင့်။

**ကျင်** ) ...... ကျွမ်း၊ တတ်သိ—နားလည်၊ ပွန်း
**ကျင်လျင်** ) ...... ပွန်း တီးတီးရှိသည်။

**ကျင့်မှုနည်း** ...... အမှုအကျင့်။ ပြုမှုပုံ။
**ကျည်** ...... ...... ခိုင်မာသည်။
**ကျည်ကျည်**........ကြည်သော ပစ်အောင်သော အသံ။ ။ ကျယ် လောင် ကြည် ရှုးသော အ သံ ပြုသည်။
**ကျည်နဲ့ကျည်နှု** — ကြည်နဲ့ကြည်နှု- ကြည့်။
**ကျည်း** ...... တံခါး။ ။ဂဝါသည်။ ။ကျည်း ကုလား။ ။နှာကျည်းသည်။
**ကျည်းကျည်း**...... ကျည်ကျည်။
**ကျည်းရှင်** ...... တံခါးရှင်၊ အဖွင့်အပိတ်ရသောတံခါး။
**ကျည်းသေ** ..... တံခါးသေ။ အမြဲပိတ်ထားသောတံခါး။
**ကျတ်ငန်ရေ** ဆားငန်ရေ။ အငန်ရေ။
**ကျန်း** ........ ........ ကျန်းမာသည်။ ။ခိုင်ကျန်းသည်။
**ကျာကျာ** ........ ကျည်ကျည်။
**ကျိ** ...... ...... ...... များစွာ၊ အမြောက်အမြား။ ။ရွံ့ရှာ ဘွယ်သော။

ကျီကျ ...... ပြိုးပြွမ်းရောနှောသည်။
ကျိန်ခို ...... ကျိန်ဆိုသည်။
ကျိန်း ...... ...... (ဘုန်းကြီး) အိပ်သည်၊ စက်သည်။
ကျိန်းခို } ........ နေတော်မူသည်။
ကျိန်းဝပ် }
ကျီ........ ...... စပါးထားရန် မြေမှ အဆင့်မြင့် နှင့် ရှိသော ထည့်စရာ။ ။စပါး ၄၀၉၆ တင်းဝင်ထည့်စရာ။(ဂဏန်းလင်္ကာ)
ကျီးကျူး ........ ညွတ်လွဲ-ချွတ်ယွင်းသည်။
ကျီးရန်း ...... နန်း ပြာသာဒ်တို့ဝယ်၊ ဆန်း ကြွယ်စွာ လုလုပ်ထား အပ်သော ရုလစ်မွှန်းချွန်။
ကျု ...... ...... ညစ်နွမ်းသော။
ကျေးမက် ....... မြို့ရွာ။
ကျေးမြီး မြေမှ အညွှာဝံ ပေါက် စ ရွယ် ထန်းပင်ငယ်။
ကျော ...... ...... သန့်စင်- သန့်ရှင်းသော။
ကျောငွေ ...... သန့်စင်သောငွေ။
ကျော့ကျည်း - ပျင်းရိသည်။
ကျော်သွေး ..... ကျော်စောသည်။
ကျုံ ...... ...... ...... မွမ်းမံသည်။ လိမ်းသည်။
ကျုံကျုံ........ ........ ကျည်ကျည်။
ကျိုးကျင် ........ မျိုနူသော။

**ကျီးကျည်** ..... မဋ္ဌ မရှာ-မဆုတ်မနစ်-အားထုတ်သည်။
**ကျီးနွံ** ....... ....... ရိုသေသည်၊ နှိမ်ချပြုသည်။
**ကျိုက်ကျိုက်** – ပြင်းစွာဆူတက်သည်။
**ကျိုင်း** ....... ....... ထွားထွားဖွံ့ဖွံ့။ကြီးမားသော။

## ကြ

**ကြ** ....... ....... စပါး ထားရန် မြေခွဲ ချဖိုင်းထားသော ဖျာပတ်ဖိုင်း။ ။စပါး-၁၀၂၄-တင်း ဝင် ထည့်စရာ။ (ဂဏန်းလင်္ကာ)။ (ကဗျာသာရဉ္ဇ သတ်ပုံတွင် အရစ်နှင့်- ကြ-ဟု ပြသည်)။
**ကြငှန်း** ....... ကြီးမြတ်သော။အကြီးအမြတ်။
**ကြလဲ** ....... ....... ဝဲ။
**ကြင်** ....... ..... ချစ်ကြင်နာသည်။
**ကြင်ဆွေ** ..... မယား။ ။လင်။
**ကြင်လျင်** ...... ကြင်။
**ကြင်သူ** ..... ...... မယား။ ။လင်။
**ကြဉ်း** ..... ဆောင်ကြဉ်း·ဆောင်ရွက်သည်။
**ကြည်တဲ** ..... ...... သောက်ရေခွက်။
**ကြည်နဲကြည်ကူ** – ကြာနှေး - ဖြည်းနှေး· ကြာ တင်သည် ။ ။ပျင်းရိသည်။

**ကြည်း** …… …… ကုန်းမြေ။ ။မြေအောင်သည်။ ။မိုး
ဖုတ်- မိုးတိုက်သည်။

**ကြည်းကြည်းကြည်း** ရှင်လန်း - ဝမ်း မြောက် သည်
ရွှန်း ရွှန်း ရွှင် ရွှင် - သန့်ရှင်း စင်ကြယ်
သည်။

**ကြန့်** …….. …….. ကြာမြင့်သည်။ ။အညွန့်မတိုး။ မကြီး
မပွားရှိသည်။

**ကြပ်** …….. …….. ထိန်းအုပ် - ကြီးမှူး- စောင့်ရှောက်သည်။

**ကြမ်း** …….. …….. ပင်ပန်း - နာကျင် - ကြောက် လန့် သည်။
မြိမ်းမောင်းသည်။

**ကြွတ်** …….. …….. ကြမ်းတန်းသည်။

**ကြွပ်** …….. …….. အဆင့်။ ထည့်ရန်ခွက်အုပ်။

**ကြေးတိုက်** …….. အကျဉ်းထောင်။

**ကြေးမုံ** …….. မှန်ကဲ့သို့ ကြည့်ရန် ချောစွာ တိုက်ပွတ်
အရောင် တင်ထား သော ကြေးပြားပြား၊
မှန်၊ ကြည်လင်သောအရာ။(မှန် မ ပေါ်
မီကကြေးမုံကိုသုံးကြသည်။

**ကြဲသေး** …….. စစ် ဝတ် တန် ဆာ။ စစ်အင်္ကျီ။ ချပ်။
ဝတ်လုံ။

**ကြော့သွေး** …… ကြောင် သော အ ရောင်။ အ ကြောင်။

**ကြောက်ကြမ်း**
**ကြောက်ငြင်** } —ကြောက်ရွံ့သည်။

**ကြောင်းချည်း** - ရုတ်တရက်၊ ဖြုတ်ချည်း။ အဆောတလျင်။
**ကြံထက်** ........ ပညာ။ ပညာဥာဏ်။ ။ပညာရှိ။
**ကြံသီး** } ........ အမြော် အမြင် နှင့် ပြည့်စုံ သည်။
**ကြံသိုင်း** } ပညာ ရှိသည်။
**ကြံ့ကြံ့** ........ ခိုင်မာသည်။
**ကြုံး** ........ ........ အားထုတ် - လုံ့လပြု ကြုံးစားသည်။ မဆုတ်မနစ် ပြုလုပ်သည်။
**ကြုံးကြယ်** ........ ခင်ပင်ဖြူသည်။
**ကြုံက်** ........ ........ ကြုံ-ဆုံ-ကြုံတွေ့သည်။
**ကြုံ** ........ ........ တွေ့ ဆုံသည်။
**ကြုံးပ** ........ ........ ကြုံးဝါး - အသံပေး - ဟိန်းဟောက် မြည်းမောင်းသည်။

# ကွ

**ကွန်** ........ ........ ပျံတက်-ပျံကြွ -လွင့် မြော်- မြော်သည်။
**ကွန့်** ........ ........ မြူးတူး - နွှင် ပျော် သည်။ ။တွန့်၍ လွန့်၍တက်သည်။
**ကွန်း** ........ မင်းတို့စံရာနန်း။ ။နန်းအိမ်။
**ကွန်းစား** ........ စလယ်။ လေးလက်ချပ်နှင့် ညီမျှသော အချင်အတွယ်။

**ကွန်းပြောက်** ..... ကွန်း။

**ကွပ်** ........ ........ ထိန်းသိမ်းသည်။ နှိပ်နင်းသည်။ ။
သတ်သည်။

**ကွပ်ကဲ** ....... ....... ကြီး၍းသည်။

**ကွမ်းထည့်**<br>**ကွမ်းထဲ့** } ... ဆရာမှန်းထားသည်။ ဘုရားဖြစ်မည့် အလောင်း အလျာ မှန်းထားသည်။ ဆရာဟုအသိအမှတ်ပြုသည်။

**ကွေး**<br>**ကွေးလေး**<br>**ကွေးတလေး** } ငယ်သော။ သေး ငယ် သော၊

## ကျွ

**ကျွန်သီးတော်** - ဘုရားကျွန် — ကျောင်းကျွန်။

**ကျွန်း** ....... ....... (အတု) မရှိ။ (အတု) မဲ့။

## ကြွ

**ကြွေ့ကြွေ**<br>**ကြွေ့ကြွေ့ရမ်းရမ်း** } များသော။ များစွာ။

# ခ

**ခစီးပတ်မြို**
**ခစီးပတ်မြေ** } ...... ခါးဆီးပတ်ခြိ။

**ခနောင်း** ...... ...... ကြွလဲ။ ဝဲ။ မြစ်တွင်ရှိသော ဝဲ။

**ခပင်း**
**ခဲ** } ...... ...... အများ။ များသော။

**ခမည်း** ...... ...... အဖ။ အဖေ။

**ခယ** ...... ...... ...... ရှိသေသည်။

**ခရော်ခရွတ်**........ မညီ မညွှတ်သော။ ။မညီ ညွှတ်သော မြေမာ မြေကြမ်း။

**ခလော်** ........ ...... မှုလော်။ ။အတိုင်း အရှည်။ ။ (ယုတ်မြတ်အပြား။ သုံးပါးတိုင်တည်။ ကိုးခု မည်ဖြင့်။ ရှည်စွာခလောက်။ မိုးရှိမြေဝ်သား။ ။အသူတရော။ နက်စွာ ခ လော်။ မြေတွင်းချော်သို့။ ။ဆု တောင်းခကျင်း။ ။ပွဲတောင်သိထင်၊ မဝင်လော်သေး။ ငယ်ကွေးလေးသား။ ခွေးရှိခလော်။ သူတပေါ်မှု။ ။ မရော် မပေါက် ပါစေနှင့်။ ။ မဟာဇနကပျို့။)

**ခလို** ........ ........ ဟူလို။ ပါစေသတည်း။
**ခက်လှော်** ........ ခဲယည်းသည်။
**ခင်။ခင်တန်း**........ ကျွန်းမြင့်။ ကျွန်းရိုး။ ကျွန်းတန်း။
**ခင်ခင်မွတ်မွတ်-** ခင် မင် - ကြင် နာ သည်။ တွယ်တာ-စွဲလမ်းသည်။
**ခင်ပွန်း**........ ........ လင်။ ။မယား။
**ခန်းဝါ** ........ နေရာ။ ။အိမ်။ ။နန်း။
**ခပ်** ........ ........ တဖက်ကမ်းရေဝံ တတ်သည်။ ။ အိပ်ရာ။
**ခပ်မဆိပ်** ........ ငြိမ်ဆိမ် - တိတ်ဆိတ်စွာ။
**ခပ်သွတ်** ........ မြန်မြန်။ လျင်မြန်စွာ။
**ခမ်း** ........ ........ မြစ်ကမ်း။
**ခါးဆီးပတ်ငြိ** ........ အိမ်ရာပြစ် မှား၍ လျော်ဒဏ် သင့်သောကြေး။
**ခဲ** ........ ........ ........ ကိုက်ထား သည်။ အား ထုတ်သည်။

**ခဲ**
**ခဲခက်**
**ခဲယဉ်း**
**ခဲရပ်**
**ခဲလှော်**
.... ခက် သည်။ ခက် သော။ မ လွယ် ကူ .... သော

**ခေါက်ရက်** ...... ရက်ရက်စက်စက်။ ။အဟုတ်ဒိဒိ။
**ခေါင်** ...... ...... ဝေးသည်။ အမြင့်။ အစွန် အဖျား။
**ခေါင်ခေါင်** မာတင်း - မာချာသည်။

**ခိုက်ဆည်း** }
**ခိုက်ဆဲ** } ...... ရန်ရှာ- ရန်စ- ရန်ဖြစ်သည်။

**ခိုင်ကြည်** }
**ခိုင်ကျန်း** } ...... တည်မြဲ– ကြံ့ခိုင်- မာချာသည်။

**ခိုင်ဖြိုး** ...... ...... ပေါများပြည့်စုံသည်။
**ခိုင်မျဉ်း** ...... ...... ကြာနှေးသည်။
**ခုံတမင်** ...... ...... မြန်မြန်။ အလျှင်အမြန်။

# ချ

**ချက်** ...... ...... ...... အလယ်ဗဟို။
**ချက်ကုန်** ...... ...... အကြွင်းမဲ့။ အလုံးစုံ။
**ချက်တိုက်** ...... အချက်ကျကျ။ တိုက်ရိုက်။
**ချက်တိုင်** ...... အဆုံးတိုင်။ အပြီးတိုင်။
**ချက်တွေ့** ...... ဖူးတွေ့ - မြင်တွေ့- ကြိုက်ကြုံသည်။
**ချက်ပိုင်** ...... ...... အလုံးစုံတချက်တည်းနိုင်သည်။
**ချက်ပြီး** ...... ...... အလုံးစုံတချက်တည်းပြီးသည်။
**ချက်ဖြုတ်ချက်ဝ ဖြုတ်** ရုတ်တရက်ဖြုတ်ခနဲဖြစ်သည်။

ချက်ရိုင် အလုံးစုံ ပြည့်စုံသည်။ ။တပြိုင် နက် တချက်တရိုင်တည်း။

ချက်သွန် ........ အကြွင်းမဲ့။ အလုံးစုံ။

ချင်းချင်း ...... ...... အချင်းချင်း။

ချစ်ဖက် ...... ...... လင်။ ။မယား။

ချစ်မေ အထူးချစ်သည်။

ချဉ်ဆူး ...... အမျက်မာန်စောင်ထသည်။ (ယခုအခါ အမျက်ထွက်သည်ကို စိတ်ချဉ်သည်ဟု ဆိုကြသည်။ ချဉ်ဆူ- ဟူ၍လည်းယူတတ် ရှိတန်၏။)

ချဉ်ပေါ် ........ ချဉ်ပူ။

ချဉ်း
ချဉ်းခစ် ........ နှိုးစွာ။ ။အနီးသို့ ကပ်သည်။

ချပ်ချပ်
ချပ်တီးချပ်နှောင် အလျှင်အမြန်။ တညီတညွတ်။

ချို ........ ........ ........ ခိုင်မာသည်။ ။ခံနိုင်အားရှိသည့်။ ။ကြိုးကြိုး ပမ်းပမ်းပြုမူ ဆောင်ရွက်သည်။ ။ရှိသည်။ ။ပြည့်စုံသည်။

ချိန်ချန်။ ချီချန်
ချီချယ် အလုံးစုံ။

**ချီချယ်** ...... ...... ဒေါသအခြင်းအရာ။ အမျက်ပြုခြင်း။ အမျက်ထားခြင်း။ (ယခု - ချုပ်ချယ်။ ဟုဆိုကြသည်။)

**ချီချွဲ** ...... ...... ...... ချွဲထွင် သည်။ ။လွန် ကျူး သည်။

**ချူ** ...... ...... ...... ယိုထွက်သည်။ ။မျက်ရည်ချူသည်။ လှမ်းဆွတ်သည်။ ။အရယူသည်။

**ချေ** ...... ...... ...... မှဲ့၊ မှဲ့မည်း။

**ချေချွတ်** ...... ပြောဟောသည်။ ။ပြောဟော၍ ကယ်တင်သည်။

**ချေး** ...... ...... သစ်စေး။

**ချေးအိုး** ...... သစ်စေးအိုး။

**ချွဲ** ...... ...... ...... တုန်လှုပ်သည်။

**ချောစား**
**ချောပစ်** } ...... ကုံးတိုက်သည်။

**ချောလျော** ...... မကျက်သော ပဲနှောံဟင်း ကဲ့သို့သော စကား။ ရှောနှောံမညီ— ချွတ်ချော်သော စကား။

**ချောသွေ့** ...... ကုံးတိုက်သည်။

**ချောက်** ...... ကျော်ကြွားသည်။

**ချောက်ချား** ......တုန်လှုပ်-မငြိမ်မသက်ဖြစ်သည်။

**ချောင်** ........ ........ အထောင့် အကြားတို့၌ ရှိသောနေရာ။ ။အိပ်ရာတိုက်ခန်း။ ငယ်ညှံ့-ပိန်သည်။ ။မကျယ်။

**ချောင်း** ........ ........ ညှံ့ညှံ့ညှောင်းညှောင်း။ ဖြည်းဖြည်း သာသာ။ ချုပ်ချုပ်ပုသည်။

**ချော်** ........ ........ ကြွမ်းချော်- ကြွမ်းမာသောအရာ။ ။လွှဲ-ချွတ်ယွင်းသည်။

**ချုံ** ........ ခွဲ-ပဲ့သည်။ ။ဘွဲ - ပဲ့ သည်။ ။ခွဲခြမ်းသည်။

**ချိုင်** ........ ........ ခုတ်-ဖြတ်သည်။ (ထိမ်း-ကြည့်)။

# ခြ

**ခြ။ ခြခြ** ........ ကွဲအက်သည်။

**ခြင်းခြင်း** ........ ရဲရဲနီသည်။

**ခြည်** ........ ........ အရောင်။ အရောင်အလင်း။

**ခြည်းခြည်း** အသံမြည်သံ။ ။သာ ယာ သော အသံမြည်သံ။

**ခြိုးခသောင်း** ...... ခြိုးမွမ်းကြသည်။

**ခြေးခြေး** ...... ခြည်းခြည်း။

**ခြောင်းခြောင်း** ပြင်းစွာ အနှုက်ထွက်သည်။ ။ပူပြင်းသည်။

## ခ

ခွက်ခွင်း ....... လင်းကွင်း။ သံလွင်။

ခွက်သနွှေး ........ ဖလား။

ခွါ ........ ........ ရှောင်ခွါ – ရှောင်ကြဉ်သည် (ဖဲ။ ဖဲ့။ သရည်း။ သရဲ)၊

ခွါ၊ ခွါသား ........ ကျွန်သီးတော်။ ဘုရားကျွန်။

## ဃ

ဃုံ ........ ........ နှင်းနှယ်သည်။ ခွဲသည်။ ချက်ဆီးသည်။

ဃုံဃုံ ...... ...... ...... ရှုပ်ရှုပ်ချုံချုံ။ ခွန့်ခွန့်စားစား။ ရဲရဲဝံ့ဝံ့။ လျှင်လျှင်မြန်မြန်။

## ဂ

ဂနိုင် ...... ...... တော။

ဂလိုင် ...... ...... ယိုက် ဆူသည်။ အောက်က ယိုက်၍ ဆူသည်။ ဆူရိုက်သည်။

ဂင်္ဂါ ........ ........ ကင်္ဘာ။

ဂီဝါ ...... ...... ရှေးအစဉ်ကိုမှတ်မိသည်။ အစဉ်အလာကိုမှတ်မိသည်။ ။လည်ဦး ဆင်သော တန်ဆာ။ ။ဖွေ့။

ဂုံး / ဂုံးချော / ဂုံးတိုက် } ...... ရန်တိုက်ခြင်း။

## င

**ငဆ** ........ ........ မရှိမသေ - နှင် - ဟယ်ဆိုသောစကား။

**ငတောင်ငရေ** ..... ထွေထွေ ရာရာ၊ ဟိုဟို သည်သည်။ မဟုတ်မဟပ်။

**ငထည်ငဝ** ...... မထင်မရှား၊အမှတ်မဲ့၊ သာမည။ ပေါ့ပျက်သော။ ( ထဆင်ထူးနှင့် ရှိရမည်။ ။ ။တရား မတည်။ ငထည်ငဝ။ လူဗာလတို့။ ။မဃာဒေဝလင်္ကာသစ်)။

**ငက်** ........ ........ ပြောဆိုသည်။ အသံမြွက်သည်။

**ငက်။ငက်ငက်** ...... ရာဂစိတ်ဖြင့် ပြင်းစွာတပ်မက်သည်။

**ငတ်ငါး** ........ မငြိမ်မသက်။

**ငပ်ငါး** ..... ဟင်းလင်းပွင့်သည်။

**ငမ်းငမ်း** ....... အလွန်အမင်း။ မဆီးမတားနိုင်။

**ငေါ်** ........ .. .... အသံပြုသည်။ မြွက်သည်။

**ငေါ်** ｝ ....... မနာ သာသော - မ သာ ယာ သော
**ငေါ်ငက်** ｝ မကောင်းသောအသံ။

**ငေါ်ငည်း** ...... သာ ယာ နာပျော် ဘွယ် သော အ သံ။ ( ညည် ညှင်း ညည်း၍။ ငေါ်ငည်းငိုက် ရင့်။ ရွှေနန်းမြင့်ထက်။ ရစ်ဆင့်ပတ်ဖြာ။ နတ်သူဇာတို့။ တူရိယာ ကျူးထေခံ။ တင်ဦးလျှော်လျက်။ ။လောကဝိဇ္ဇ။ ။ ဤစကားမှာ အသုံးနည်း၏)။

## ငြ

ငြို ............... ငဲ့။ (ကျော်စာ။)
ငြိုငြင် ......... ......... ဆင်းရဲသည်။

## ငွ

ငွါး၊ ငွါးငွါး ...... မြင့်မောသည်။ ။မြင့် မော ရွာ။ ။
-အမြင့်အမော်။
ငွံယ် ......... ......... ငွေ။ (ကျော်စာ။)

## ငှ

ငှ ...... ...... ...... ဝေ- ပေး- ကမ်းသည်။

## စ

**စကားဖ** ......... ......... အလိုမရှိသည့် စကားကို သူတပါး ပြောလျှင်၊ ၎င်း၏ စကား ပျော့ အောင်၊ အခြားစကားကို ချွတ်၍-ညှပ်၍- ဖြတ်၍ ပြော သည်။ ။စ ကား စ ကို ဖျော့ သည်။ ။စကားမှားသည်ကိုဖါထေး၍ ပြောသည်။ (ယခု စကား ဖါ သည် ဆိုကြသည်)။

**စတေ** ........ ........ အမြဲမပြတ်။ အစဉ်အမြဲ။ ။ဝဲဝ်စစ်။ ။ ။မျှားသည်။

**စနီး(စ-နီး)**........ အနီးအစပ်။

**စနစ်** ........ ........ ခေါက် လိပ် သည်။ အစဘုံ့ ပြန် ၍ ခေါက် သည်။ ။(သစ်နက်သား ရွေ ဆောင်စနေကို။ ပြေပြေ ပြစ်ပြစ်။ ခေါက် စနစ် လျှက်။ ။ဆုတောင်း ခဏ်း)။

**စနည်း** ........ ကောင်း မ ကောင်း နိမိတ်ဖတ်ယူရန် ဖြစ် သော စ ကား၊ နှုတ်မြွက်သောအ ကြောင်းနိမိတ်။

**စရကုတ်** ........ ရအံ့သော - ရသောလာဘ်ကို သိသိ (သူယုတ်တို့) ဤသို့သိသည်။

**စရဖုတ်** ........ ချက် ပြုတ် ရာ မီး တင်း ကုပ်။ (သခု သရဖုတ်- ဟုလည်းခေါ် သည်)။

**စရည်း** ........ အိုး။ အိုးကြီး။ (မွန်တလိုင်း စ ကား ........ ဇရိ=ပဲရှူးအိုး ။

**စလောင်း** ........ အိုးဖုံး။ ဖုံးပွက်။

**စက်** ........ အိပ်သည်။

**စင်စို။ စင်စို့** ........ ရွပ်စပ်သည်။ အ ထပ် ထပ် စပ်နေ သည်။ ။အထပ်ထပ်။

**စင်း** ........ ပြု-ဖြောင့်မတ်-တောင့်မှန်သည်။

**စင်းလျှင်း** ........ အမြဲမကွာ။မပြတ်။

**စစ်စီး** ........ နှင်း စ ကျ မ ရှိ၊ အတုမရှိ။ ။ လဲလှယ်သည်။

**စစ်တမဲ** ........ ဆင် ပေါ် တွင် စိုက် ထူ သော အ လံ။ ဆင်လံ။

**စစ်တလေး** ........ တံခွန်။ အလံ။

**စစ်တလောက်**-- တီးသည့်မောင်း။

**စဉ်း** ........ ချိန်ခွင်။

**စဉ်းသွား** ........ လေးနှင့်ပစ်ရသောမြား။

**စည်** ........ ယှက်နှံးကား - ပေါ်ချွားသည်

**စည့်** ........ မြေပေါ် တွင် နံ့ဘေး ပတ်လည် ကာ၍ စပါး ထားရသော အရာ။(ကျီထက် ငယ်သည်။ ရင်းစည့်မှာ ရေးကသောင်။ စပါး သာခဟုတ်။ ဆန်။ ငါးဒိ စသည် တို့ကိုပင်သိုထားသည်)။

**စည့်။စည့်စည့်**...... ထွန်း လင်း တောက် ပ သည်။ ။ထွန်း လင်း တောက်ပသော အရောင်အလင်း။

**စည့်ကွင်း** ........ ရှေးအစဉ်အဆက်။ ။မော် ကွန်းစား။

**စည်း** ........ ထုံး-ဥပဒေ-အခံ့အတား။ ။ဖွဲ့နှောင် ပေါင်းစုသည်။

**စည်းတန်း** ........ သောင်မြိတ်သောင်စွန်း။

**စပ်စပ်** ........ မချွဲအမှုန့်။ (ယခု ဆတ်ဆတ်)။

**စယ်** ........ ပျော်ပြယ် - ပျော်စဲ - ပြိုးပြိမ်း - ပြိုးဆိုး သည်။

**စာ။ စာနှာ** ........ ထောံထား-ဆင်ခြင်-ရုံစမ်းသည်။ (ပါဠိ-ဓာနှာ-ကလာပဟန်ရှိသည်)။

**စား။ စားရေး** - ထင်ရှားစွာ။

**စိစ္စေ** ........ ပိစစ် - စစ် ဆေး သည်။ ။ကောင်းမွန်သေချာစွာ နာယူသည်။ နှလုံးမိုက်သည်။

**စိတ်စေး** ပိတ်ငွဲငွာ - ကောင်းမွန်စွာ နှလုံးမိုက်သည်။

**စိတ်ပြား** ........ လိမ်မာမြော်မြင်သည်။ ။ဖွေရှာရုံစမ်းသည်။

**စိတ်ဖျား** ........ ဝေဖန် ခွဲခြမ်းသည်။ (ပိတ် ဖြာ လည်း တွေ့ရသည်။)

**စိတ်မျှဉ်း** ........ မရွှင်လန်း - ငြိုးငွေ့သည်။

**စိတ်ရင်ကျည်** - ယုံယွင်း-ပျက်စီးသည်။

**စိန်** ........ တော။

**စိန်းလိန်းထင်လင်** ⎫ မျက်မှောံ မျက်မြင်၊ အထင်အ
**စိန်းလိန်းထင်လင်း** ⎭ လင်း။ (ထင်လင်း-ဟုထဆင်ထူး နှင့်ရှိရမည်။)

**စိပ်စိပ်** ........ ငွေ့ ငွေ့ စပ် စပ်။ သေ သေ ချာ ချာ။

**စိမ့်ချေ** ........ ငြိမ်သက်သည်။

**စိမ်းချဉ်** ........ ပြင်းထန်ကြမ်းကြုတ်သော။ ဒေါသကြီးသော။မိုက်မဲသော။

**စိရင်ကျည်** ........ စိတ်ရင်ကျည်။

**စုလစ်** ........ အထွတ်။ အမြတ် အဖျား။ ဘုရင်မှန်ကင်း။

**စုလည်း** ........ ဆံထုံး။ ဦးစွန်းကို ကြက်တောင်စည်း၍ ထုံးသောဆံထုံး။ (ဦးစွန်း ဟော-ပါဠိ-ရှုဋ္ဌ-မှ လာသည်။)

**စုလျား** ........ အပေါ်တင်ပုဆိုး။ [ အနီအဖြူမဟု ]။

**စုန့်နဲ့** ........ နွဲ့မူ နွဲ့ရာ ပြုသည်။ နွဲ့ဆိုးဆိုးသည်။ နွဲ့၍ငိုသည်။ ရှုံ့မဲ့သည်။

**စုန့်လုန့်** ........ မညီမညွတ်သောအရာများ။

**စုပ်စုပ်** ........ အလုံးစုံနစ်မြုပ်သည်။

**စူဖါ** ........ အစစကိုစုရုံးသည်။ စုဆောင်းသည်။ ။ ပြုပြင်သည်။

**စူစူဖါဖါ** ........ စပ်စပ်ဖါဖါ။ ရှာရှာဖွေဖွေ။

**စူးစား** ........ စုံစမ်းဆင်ခြင်သည်။စုံစမ်းရှာဖွေသည်။

**စူးစူး** ........ တည့်တည့်။ မတ်မတ်၊ ဖြောင့်ဖြောင့်။

**စေ့ချဉ်း** ........ အနီးအပါး။ ။နီးသည်။

**စေ့ဆော်** ........ နှိုးဆော်သည်။ ။ထကြွအားထုတ်ဘို့။

**စေ့မြေ့** ........ စေ့စေ့စပ်စပ်။ သေသေချာချာ။

**စေး** } ........ တော။ တောအုံ၊ ချုံ။
**စေးပျစ်** }

**စဲ့** ....... ....... ....... စည့်။
**စဲ** ....... ....... ပျော်ပြယ် - ဖြိုးငြိမ်း - ပြတ်စဲ - ဆုံးခန်း တိုင်ရောက်သည်။
**စဲတန်း** ..... ....... သောင်မြွတ်။ သောင်စွန်း။
**စော** ...... ..... မြတ်သော။
**စောကြော** ...... စစ်ဆေး - ရုံစမ်း - ဆင်ခြင် - ထောက်ဆ သည်။

**စောထီး** } ........ မြတ်သောသူ။
**စောမီး** }

**စောလောင်း** ...... မြတ်သော ကုသိုလ်ပါရမီ။ မြတ်သော အလောင်းအလျာ။
**စောက်** ...... ကာလအရှည်။ ။စောင့်ထိန်းသည်။ ကျင့်သည်။ (မြူလျားဆော်ရော်။ အိုရှင် ပေါက်မှ။ ကျင့်စော်နိုင်မှု။ ရဟန်းပြု လော့။ ။ဆန်ပြန်)။
**စော်** ........ ........ အနံ့ဆိုး။ မကောင်းသောအနံ့၊
**စံနစ်** ...... အဘိုင်းအရှည်။ အဘိုင်းအထွာ။ ။ ပုံစံ။ စံမူ။
**စံနှိ** ..... ....... ...... စပါး။

**စံသီး** ...... ...... ...... မိန်း မ။ အိမ်ရှင်။ မယား။

**စို** ...... ...... ...... ကာလ တာရှည်ခြင်း။ နောက်ကာလ။ (စိုပြည်-နှောင်းစိုကြည့်)။

**စိုစို** ...... ...... ရှေးဦးရှေးဖျား။ (ဓာတ္တုဗိုစို။ ကျောင်းရိပ်ခိုသား။ ပုဂ္ဂိုလ်တို့နောက်၊ ရှစ်ဆက်ခြောက်ဝယ်။ ။ရတနာဒိမာန်ကျောင်း ကျောက်စာ)။

**စိုပြည်** ...... ...... ရှည်မြင့်သော ကာလ။ ။ကြာမြင့်သည်။ ။နှေးလင့်သည်။

**စိုင်းပြင်း** ...... ထောံဆ - တွေးတော - မြော်မြင်သည် ။ ။နှိုးနှောတိုင်ပင်သည်။

**စုံ** }
**စုံဖျား** } ...... တော

## ဍ

**ဍွးဍွး** ...... အရောင်တောက်ပသည်။

**ဍွံ** ...... ...... ရောင်း၍ထွက်လွယ် - ကုန်လွယ်သည်။ ရှားသည်။

## ဆ

ဆ ...... ...... ချိန် ဆ သည်။ တွေး တော ဆင် ခြင်သည်။ နှိုင်းယှဉ်သည်။

**ဆဝ** ........ ........ အကြောင်းအရာ။

**ဆဝါး** ........ ဝမ်းဆာသည်။

**ဆင်ကျွံတရား** - ဆုံးဖြတ်ရန်အမှုများ။

**ဆင်ခြင်ပေါ်** ........ မြေမှုန်း ခေါင်း ပေါ်ထွက်စ ထန်းပင်ငယ်။

**ဆင်သီး** ...... ...... တ ပုဒ် အမှုများကို သီးသန့် ပိုင်းခြား ဆုံးဖြတ်သည်။

**ဆင်းငြယ်း** ...... ဆင်းရဲ။ (ကျောက်စာ)။

**ဆည်းဆာ** ........ နံက် နေတချမ်းထွက်မှ၊ ညနေ-နေတ ချမ်းဝင်အချိန်။ ။အချိန် ကာလ။ (ပါဠိ-သဉ္ဈာ။)

**ဆတ်ဆတ်** ........ ဝပ်ဝပ်။ ရှု။ ကေန်အမှန်။

**ဆတ်မြား** ........ ကြမ်းကြုတ် - ခက်ထန် - ကြမ်းတမ်း သည်။ တောင့်တင်း မာချာ - ဖြတ် လတ်သည်။ ။ဆတ်သည်။

**ဆန့်ကန်** ........ အဘာကိုလှန်ဆန်သွေဖီသည်။

**ဆိတ်၊ဆိတ်ညံ့** = တိတ်ငြိမ်သည်။

**ဆိဆွယ်** ..... ....... အကြီးအငယ်နှိုင်းယှဉ်သည်။ ။ကြီး စဉ်ငယ်လိုက်။

**ဆိပေါ်** ........ ဆိပူ။

**ဆီးကျုံကျုံ** ........ ဆီးနှင်းကျသောမြည်သံ။

**ဆုန်း** ...... ...... ဟင်းသပဒါး။ (ဆုန်း- ဟု- နသတ်နှင့်ရှိရမည်။ ။နိမောင်းဟာသ်ပဒါး။ဆုန်းအလါးသို့ခြေဖျားခေါင်းဆုံး။ကိုယ်လုံးတွေးတွေး။ ။မဃဒေဝလင်္ကာသစ်။)

**ဆုန်းဆုန်း** ........ စဉ်တွက်သည်။

**ဆူးရား** } ဒေါသပြင်းစွာ။ ။ဒေါသပြင်းစွာ

**ဆူးဆူးရားရား** } ထွက်သည်။

**ဆေးဆေးလေး** - လေးလံဖင့်နွဲ့သည်။

**ဆဲဆဲ** ........ လုနိုး။လုမတတ်။

**ဆော** } - မြန်မြန်။

**ဆောတလျင်** }

**ဆော့ကြွပ်** ........ လက်ဆော့- ခိုး၀ှက်- လုယက်သည်။

**ဆောင်ပါး** ....... လက်ဆောင်ပဏ္ဏာ။

**ဆောင်ပါစာ** } လူကြုံတွင်ပါးလိုက်သောစာ။

**ဆောင်းပါးစာ** }

**ဆံတရွက်** ...... ဆံတပင်။ (သန့်ရှင်းစင်ကြယ်။ ကျင့်နွယ်မပျက်။ ဆံတရွက်မျှ။ ယွင်းကွက်မရှိ။ ။ရာဇဝသတီခတ်း)။

**ဆံလှုံ(ဆံလံ)** .... ဆက်ဆံရောပြွမ်းအကျွမ်းဝင်သည်။

**ဆို** ...... ...... ...... ဆိုးကြှသည်။

**ဆိုဆွယ်** ..... ...... ပြိုင်ဆိုင်-နှိုင်းဆွယ်တူတနဲသည်၊

**ဆုံစည်း** ...... ...... တွေ့ကြုံ-ပေါင်းသင်း- စုရုံသည်။

## ဆွ

**ဆွတ်ဖြန်းအူသည်** - အလွန်လွမ်းဆွတ်သည်။
**ဆွန့်သည်** ...... ခုန်-ပျံ-ခုန်ပျံသွားသည်။
**ဆွေနည်း** ........ ချစ်မြတ်နိုးသူ။
**ဆွေမယ်နည်း** - ချစ်မြတ်နိုးသောမိန်းမ။
**ဆွေမောင်နည်း**-ချစ်မြတ်နိုးသောယောက်ျား။
**ဆွေသည်** ........ လင်။ ။မယား။ ။လင်မယား။

## ဇာ

**ဇာနီး** ........ ........ မယား။
**ဇာစ်** ........ ........ ဇာတ်။ အဖြစ် (ပါဠိ—ဇာတ။)
**ဇံသီး** ........ ........ စံသင်း။

## ည

**ညဥ့်ငှက်** ........ ခိုးသူ။ သူခိုး။
**ညည်း** ........ ........ မယ်မင်း။ ။မိန်းမ။ ။မယား။
**ညား** ........ ........ ခန့်-လေးမြတ်-ရှိသေသည်။
**ညီလင်း** ........ ........ တိမ်းစောင်း - စောင်းထောင်သည်။
မညီညွတ်။
**ညဲ့** ........ ........ ညည်း။
**ညဲ့စေ** ........ မိန်းမမြတ်။

**ညံ့မ** ........ ........ မိန်းမ။ ။နှစ်မ။

**ညံ့မင်း** ........ ........ ရစ်မင်း၊ (ယာခုအခါ အချို့က၊ ရင်မင်း ဟုခေါ်သည်။ ။ပိဋ္ဌနိတလိကာ ကို ညံ့မင်းဟု အနက် ပေးတော်ကြမူ သည်)။

**ညောင်း** ........ ပိုး၊ ပိုးချည်၊ လုပ်သည့်ပိုး။

**ညောင်း** } - ကြာရှည်-ကြာမြင့်သည်။ ။ဟောင်း
**ညောင်းညာ** } နွမ်းသည်။

## ညွ

**ညွတ်ခ** ...... ...... ရိုသေ-ခန့်ညား- ခစားသည်။

**ညွတ်တိမ်း** ...... ကိုင်းညွတ်-တိမ်းမတ် တယ်မက်သည်။ နှစ်သက်ချစ်ကြိုက်သည်။

## တ

**တကာ** ........ ........ အများ။ များစွာ။

**တကျစ်** ........ ........ တန်ကျစ်- ကြည့်။

**တကြို့** ........ ........ ခိုင်မာညီညွတ်သောမျက်နှာပြင်။

**တကြို့ညို** ........ ခိုင်မာညီညွတ်အောင်ပြုသည်။

**တချာ** ...... ..... တစုတရုံးတည်း။

**တချောင်းချောင်း**-တဖြည်းဖြည်း။ တရွေ့ရွေ့။ တစ တစ။

**တစိ** ...... ...... ...... စိုးစည်း။ အနည်းငယ်။

**တစေ့စေ** ...... စေ့စေ့စပ်စပ်။ အဖန်ဖန်။

**တစိုးတစိ** ...... စိုးစည်း။ အနည်းငယ်။

**တတောံပတ်ပတ်**- တလည်လည်။

**တတွန်** ...... တစုတရုံးတည်း။

**တတွေ** ...... ...... အများ။

**တပလာ** ...... ...... သစ်ငုတ်။

**တပဲ** ...... ...... တူ-တူမျှသည်။ ကဲ့သို့။ ကဲ့သို့သော။

**တပျင်း** ...... ...... အမိုးပြင်ဖက်၌ ရှိသော ကြမ်းပြင်။
(တပြင်လည်းတွေ့ရသည်။)

**တပြာ** ...... ...... တံဖျာ ကြည့်။

**တပြေး** ...... ...... ညီစွာ။ လျော်ညီစွာ။ ။အကြောင်း

**တပြုံ့ပြည်းပြည်း**- ကြိမ်ဖန် များစွာ အဖန် တလဲလဲ
အခါတူသည်။

**တဖျင့်** ...... ...... ခြားနားသည်။ မညီမညွတ်။

**တဖျင့်ကွက်**
**တဖျင့်ကွဲး**
**တဖျင့်ခတ်**
**တဖျင့်တပါး**
**တဖျင့်ရှား**
**တဖျင့်သုန်**
} ကရဲကသီ။ ။မညီမညွတ်။ ။ မငြိမ်မသက်၊ ။ချွတ်ယွင်းသည်။

**တမရှန်** ........ ..... တမလွန်ဘဝ။ နောင်ဘဝ။
**တမုတ်** ...... ....... သပန်းခါးသီးနှင့် သံချေးနှင့် ဖိမ်၍ ရသောဆိုးရည်။
**တမုန်** ...... ...... လှေသူကြီး။ ပွဲစီး။ ပွဲသမား၊ပွဲသူကြီး။
**တမွတ်** ...... အမြတ်အဖျား။
**တမှုံမွှားမွှား** - အထပ်ထပ်အပြန်ပြန်။
**တမြှင့်** ...... ...... အတူဘူ။ (ကိုယ်လက်ကြီးမြင့်။ ထန်းပင်နှင့်လျှင်။ ။တမြင့်ရှိစကောင်းတွယ်တည်း။ ။ဘူရိဒတ်လင်္ကာ)။
**တရထည်** ...... တူသည်။ တူသော။ သဘောတူ။ အလားတူ။ ။ဥပမာ။
**တရင်း၊ကြင်း** ..... တဘောင်။တဘောင်သံ။
**တလည်လည်** ...... အထပ်ထပ်။ အဖန်ဖန် ထပ်တလဲလဲ
**တလားစီး** ...... ကျွန်အဖြစ်မှလွတ်သောကျွန်။
**တလုံလဲးလဲး** ........ အတူဘူ။ အကြိမ်ကြိမ်။ အဖန်ဖန်။
**တဝေး** ...... တစုတရုံးတည်း။
**တသက်လျှာ** ...... ခဏဖြစ်သော အစိုးတပိုင် တခဏ။ အမြဲမဟုတ်။
**တသာ** ...... လွှဲးရှောင် - တိမ်းဖယ်သည်။
**တသုန်** ...... တစုတရုံး
**တသွန်** ...... အလုံးစုံ။ အကြွင်းမရှိ။
**တအော်လဲလဲ** အကြိမ်ကြိမ်အဖန်ဖန်။

**တက်လေခင့်တက်လဲ**- ဝမ်းထဲ၌ တအုံနွေးနွေး ပူဆွေးသည်။ တအုံနွေးနွေးရှိသည်။

**တင်ကျေး** တွန့်တွန့်ရှိသည်။

**တင်းကျမ်း** ...... ပြည့်လျှမ်းသည်။

**တင်းလင်း** ..... တည်းလည်း။ တန်းလန်း။

**တစ်** ..... ရေဘွတ်သည်။ စိုအောင်ဆွတ်သည်

**တည်** ........ အစွယ်တပက်သာရှိသောဆင်။

**တည်ကြား** ...... စောင့်ရှောက် ထိန်းသိမ်းသည်။

**တည်းတွ** ...... ကြာနှေးသည်။

**တည်းဖြတ်** စာပေတိုက်ဆိုင်၍ ကြည့်သည်။ ဤသို့ကြည့်၍သုတ်သင်ပြင်ဆင်သည်။

**တည်းလည်း** ...... တန်းလန်း။

**တန့်ကျစ်** ရှစ်ကွက်ကျား။

**တန့်စယ်** တံစယ်·ကြည့်။

**တန့်စို** ယောက်ျားပျို။ ။ပျိုနုသော။

**တန့်ဆေး** ...... စေတမန်။

**တန့်ဆောင်** ...... ဘုရားကိုဆီမီးပူဇော်ရန်ပြသာဒ်။

**တဏ္ဍိ** ...... ဘေးဒဏ်။ ။ခိုးသူ(ပါဠိ-ဒဏ္ဍ)။

**တန်တား** သဝန်စာ။

**တဏ္ဍုလ** ပုံပမာ။ ။ပုံဆောင်သည်။

**တန်(တန်လ)** စက်ဆုတ် ရွံရှာဘွယ်ရှိသည်။ ။ဆိုးညစ်သည်။(ပါဠိ-တလ္လ)။

**တန်သို** ...... တိုင်ဖူး။
**တန့်တီး** ...... ရပ်တန့်သည်။
**တပ်** ...... မက်မော - စွန်းငြိ - စွဲလမ်း - အလွန်အလိုရှိသည်။
**တပ်မြေ့** ........ တပ်စွန်း ချစ်ခင်သည်။ ချစ်ကြင်သည်။
**တလ္လ** ရွံ့ဘွယ်။ (ပါဠိ)။
**တိ** ...... ...... ဖြတ်ပိုင်းသည်။
**တိလင်းကျည်**
**တိလင်းကျည်း** } အကွယ်အကာမရှိ။
**တိလင်းကျဲ**
**တီကျစ်** ........ တီများစားပြီး၍ ထွေးအန် ထားသော မြေစိုင်မြေခဲများ။ ။မညီ မညွတ်သောအရာများ။ ။မညီ မညွတ်သောမြေရာ။ ။မြေရိုင်း။
**တီတွက်** ........ နွေး - ဖြည်း - ဗင့်ကြသည်။ ။အစင်ဆေးသည်။
**တီး** ........ လွန်ခဲ့သောကာလ။ ရှေးကာလ။
**တီတောင်း** ........ အထောင့် အကွေး။ ။မောင် ယွန်းထွက်သည်။
**တီးတုံး** ........ ကွဲ့ရဲ့ စကား။ အ ကျိုး မဲ့ စ ကား။ (ယာခု - တီးတိုး)
**တီးတွတ်** ........ ဖြည်တမ်းရေရွတ်သည်။

တုကင်း }
တုကျွန်း }
တုမှဲ့ } အတုမရှိ။ နှိုင်းယှဉ်စရာမရှိ။
တုလွတ် }

တူးတည် ...... တုရှူ။ ပက်ပါ။ ရင်ဆိုင်။ တည့်တည့် မယိမ်းမဖည်၊ ဖြောင့်ဖြောင့်။

တဲ ...... ထိပါးတိုက်ခိုက်သည်။

တောံတပို ...... မြန်မြန်။ အလျင်အမြန်။

တောံတပတ် }
တောံပတ် } လျင်မြန်သည်။ ။လျင်စွာ လုံ့လပြုသည်။

တောံရက် ...... တရစ်ဝဲဝဲ။

**တောင်ကပ်ဖါးရား**–မကွေ့ မကွာ အမြဲ။ မှော်ဘီဆရာသိန်းအဆို "တောံတပ်ပါးလျှား - ရှိသင့်သည်။ကျွဲဆိုး နွားဆိုးများ မပြေးနိုင်အောင်။ လည်ပင်း၌ တောက်တပ်ပေး၍။ ၎င်းတောက်မှာ ကျွဲ နွား နှင့်မကွေ့ မကွာ အမြဲပါသည်ကို - ပါးလျှား–ဆိုသည်")။

**တောင်ကိုင်** ...... ထေးကင်းရာအရပ်။ မြတ်သောအရပ်။

**တောင်တာ** ...... ရှည်လျှား–ရှည်လံ - ရှည်ဝေး - ကြာမြင့်သည်။

**တောင်တောင်ရေရေ**–ငတောင်ငရေ။

**တောင်မြစ်** ........ တောင်မြောက်။

**တောင့်** ........ မြှားထည့်သောကျည်တောက်။

**တောင်း** ........ တိုတောင်းသည်။ တိုတွသည်။ ။ အ ကွေ့ အ ထောင့်။ လေး တင်း ဝင် တောင်းကြီး။

**တောင်း**
**တောင်းလောင်း**– } တိုအောင်ဖြတ်သည်။ တိသည်။ ။

**တော်** ...... အသျှင်သခင်။ ။မြင့်မြတ်သူ – မြင့်မြတ်သော အရာတို့နှင့် တွဲ၍သုံးသော စကား။ ။ပွဲ တင်။ ။ဖြောင့် စင်း မှန်ကန်သည်။ ။ထိုက်တန် သင့်လျော်သည်။ ။နိုးစပ်–ဆက်စပ်သည်။ ။ ကြိုကြိုက်သည် = အဆင်သင့်သည်။ ။ အသင့် အတန်ရှိသည်။ ။တတ်မြောက် ကျွမ်းကျင်သည်။ လုံလောက်ပြီ စိ့၊ ဖြတ်လိုက် – ရပ်လိုက်သည်။

**တော်လှန်** ........ ကျွန်အဖြစ်မှ လွတ်သည်။ ။အာဘာ ဆန့်သည်။

**တံကဲ** ........ အမှိ။

**တံကျင်** ........ ဖြောင့်။တုတ်တံ။

**တံငါ** ........ ရေတွင်ငါးရှာ၍ အသက်မွေးသူ။

**တံစမ်း** ........ ........ တောင်ပြတ်ကမ်းပါး ကျောက်နံရံ တန်းတို့မှ ထွက်သော ရေ။ တောင်ကြားရေ။ စမ်းရေ။

**တံစယ်** ........ ........ မြစ်ကမ်းနားတွင်။ မိုးအခါက ရေလျှံကျန်ရစ်သော ရေဖြင့်။ သွေ့ခြောက်သော ဓာတ်တို့၌ စိုက်မျိုး အပ်သောလယ်။ ။ထိုလယ် မျိုးမှ ထွက်သော စပါး။ ။(တံ·မှာ သေးတင်က သင့်လျော်သည်။ ။တံဆယ်က လာဟာန် ရှိသည်။ တံဆယ်ကြည့်)။

**တံစိ**
**တံစီး** } .. .... ရေညွန်။ ရွံ့ညွံ့။

**တံစို့** ........ ........ တံကျင်။

**တံစွက်** ..... လှေငယ်။

**တံစွပ်** ...... ရေမှုဆိုး။

**တံဆယ်** ...... ဆယ်ထားသော = ဆည် ထားသော ရေအိုင်ရေအောင်း။

**တံတင်း** ........ ပချုပ်၊ဖါ၊သေတ္တာ။

**တံတစ်** ဖြစ်မြဲဓမ္မတာ။ ။အမြဲ။ ။မယွင်းမသွေ။ ဖြောင့်မှန်စွာ။ ။အချက်ကျကျ။

**တံတွာ** ..... သဘောဓမ္မတာ။

**တံပိုး** .... လှိုင်း၊ ။ရေတိုးတက်သည်။

တံပြက် ...... ရေတိမ်။
တံဖျာ ...... တုတ်၊လှင်ကန့်၊
တံရှောင်း ...... ရေပြင်၊
တံလည်း ........ ရေကျ၊ရေစီး။
တံလား ........ ရေမြှုန် (တံ–ရေ၊လား--သွားသည့်)၊
တံလှပ် } ........ နေစာရောင်၊ နေရောင်၊ လင်းလျှပ်=
တံလျှပ် } ကိုကြည့်ဦး။)
တံသင်း တံကျင်၊ခြောင့်ခလုတ်၊
တံသုတ် ...... စပါး ဆန်တို့ကို ခြင်တွယ်ရာ၌ တိုက်
ညှိသောတုတ်၊စာတုတ်။ ။ညီညွတ်
အောင်ပြုသည့်၊
တံသို ...... တိုင်ဖူး။
တိုတောင်း ...... အထောင့်အကွေး။
တို့ ........ ........ စပါး ၁၆ တင်းဝင် တောင်းကြီး =
ပုတ်ကြီး-ထည့်စရာ။
တိုးတည် ........ အနီးအပါး။
တိုးရှို ........ ထုတ်ချင်းခတ်။
တိုက် ........ ရတနာ၊ပစ္စည်းများထားသောနေရာ။
တိုင်တည်း ........ တိုင်ကြား- မှတ်သားသည်။
တိုင်ထိ ........ ဆင်းရဲဒုက္ခရောက်သည်။
တိုင်းကား ........ တိုင်းပြည်။

တိုင်းတွ ........ ကြာရှည်ပင့်လေးသည်။
တိုင်းထွာ ........ ဆင်ခြင်သည်။
တို ........ ........ ရပ်တန့်သည်။

## တျ

တျက်တျက် ...... ကြမ်းတန်းခက်မာခြင်း။
တျင်းတျင်း အကြွင်းအကျန်မရှိ။ အကုန်အစင်။
(ကြူပမာဘ၊ သခ်ိ ါရကို။ ပြာမှု တျင်း
တျင်း။အကြွင်းမဲ့အောင်။ ။လော
ကဝိရ)။
တျာတျာ ...... နီမြန်းသည်။

## တွ

တွင်းကျင်း ........ ပေါက်ထွင်းနိုင်သော ပညာရှိသည်။
ပေါက်ထွင်း ထိုးထွင်းမြင်နိုင်သည်။
တွင်းဆုံးကျ ........ ဆင်းရဲသည်။
တွေးခေါ်
တွေးငေါ်
တွေးတော
တွေးတောသင်
} စုံစမ်း ဆင်ခြင် နှိုင်းဆသည်။
တွေးတွေး ...... ခြင်းခြင်းရဲရဲနီမြန်းသည်။

တွဲလင်း
တွဲလည်း
တွဲလန်း
တွဲလောင်း
တွဲလွဲ
} တွဲလျားကျ - တွဲ၍ကျသည်။ တန်းလန်း။

# ထ

**ထမိုး** ...... ထမ်းပိုး ကြည့်။
**ထက်ကြပ်** ...... အမြဲမကွာ။

**ထက်ချည်**
**ထက်ချည်း**
} ယိုယွင်းပျက်စီး – ယွင်းကွာ – ယိုဖိတ်သည်။ ။မရေမရှိ၊ အလုံးစုံပိတ်သည်။

**ထက်တိုက်**
**ထက်တိုင်**
} ပသချ တိုင်အောင်။ တိုင်အောင်။

**ထက်ရုံ** ...... ထပ်တူ ထပ်မျှ၊ (ထက်ရုံ ညီအောင်- ထပ်တူညီမျှအောင်။)

**ထက်ဝိုထက်ဝါး** –ဝိုးတိုးဝါးတား။

**ထင်ပြက်**
**ထင်လင်**
**ထင်လင်း**
} မျက်မြင်ထင်ရှားစွာ။ အထင်အလျား။

**ထင်းထင်း** ........ ထင်ရှားစွာ။ ပြည့်ဝှိသည်။ ။တင်းတင်းပြည့်သည်။
**ထင်းပန်း** ........ ထင်ဘူး။အတူတူ။
**ထစ်ထစ်** ........ မျက်မြင်။ အထင် အလျား။ အထင်အလင်း။
**ထပ်ရှည့်** ........ ထပ်တူ။
**ထမ်းပိုး(လှင်ကန်)**-နှစ်ဆနှစ်သီ။ ။အလီလီအပြန်ပြန်။
**ထိတ်ထိတ်မွှမ်းမွှမ်း**-အကျော်အစောပေါ်များသည်။
**ထိမ်မြူး** ........ ထိမ်ခက်သည်၊ဖုံးကွယ်ထားသည်။
**ထိမ်း** ........ ချတ်ဖြတ် - ချတ်ချုပ်-ချတ်လှည်းသည်။ (တောထိမ်း=သစ်ချတ်သည်)။ သစ်ထိမ်း=သစ်ချတ်သည်)။
**ထုတ်ခြေံ**........ လျင်မြန်စွာ။အဆီးအတားမရှိ။
**ထုတ်သန်း** ........ ထုတ်ချင်းဖီလာ။
**ထူး(ထုံး)** ........ ချောင်းများ တွင် ငါးတရ တခေးနေရာမှဘာနာ။ ။တွင်းခေါ်င်း။
**ထူး** } ........ ဆင်ခြေတွင် ခတ်သော ထိတ် - ခြေ
**ထူးပွတ်** } ........ ကျည်း။
**ထဲ** ........ အောင်၊အဘွင်း။
**ထဲနှီး** ........ အတွင်းခံအဝတ်။
**ထောပေး** ........ ဆိဥ။မလိုင်။
**ထောမနာ** ........ ခြီးမွမ်းသည်။ (ပါဠိ)။

**ထောင်ထား** ........ ထောင်လွှား ပလွှား-ပုန်ကန်သည်။

**ထောင်း** ........ နှိပ်စက်သည်။

**ထောင်တား** ........ နှိပ်စက်သည်။ ပင်ပန်း ဆင်းရဲအောင် ပြုသည်။ပင်ပန်း-ဆင်းရဲ-နှစ်နာသည်။

**ထောင်းထောင်း** -ခြောင်းခြောင်း။ ။ညက်ညက်။

**ထိုက်** ........ ........ ရိုက်-ရိုက်ခတ်သည်။

**ထုံး** ........ ........ ထုံးစံ၊ အလေ့အလာ၊ ရှေးက ဖြစ်ဘူးသောအရာ။ ။အခြားမြစ်ချောင်းအိုင်စသည် တို့မှ စီးလာသောရေ တို့ ဖြင့် ဖြစ်တည်အပ်သောရေအိုင်။

**ထုံးတီး** ........ ထုံပေါင်း။ရှေးနည်း။

# ထွ

**ထွက်နပ်** ........ ဧည့်ဝတ် ပြုသည်။ လာ ရောက် သည့် ဧည့်သည်ကိုကြိုဆိုကျွေးမွေးပြုရသည်

**ထွေငေါ်** ........ ဆင်ခြင်-ကြံစည်--ကြံဆသည်။

**ထွေငေါ်**
**ထွေသာ**
**ထွေသံ**
} မြွက်ဟပြောဆိုသည်။

## ဒ

**ဒလိဒ်ဒလာ** ........ သူဆင်းရဲ။အထီးကျန်သူ။(ပါဠိ-ဒလိဒ္ဒ)
**ဒုရင်** ........ ........ ဒူယာင်ကြည့်။
**ဒုဟ** ........ ........ ပိတ်နှစ်ထွေနှစ်ခွရှိသည်။ (ပါဠိ-ဒွိတ)။
**ဒူယင်** ........ ........ အင်္ကျီ။ချင်။ သင်တိုင်း။ (အချို့စာဥ္စ-ဒုရင်ဟု တွေ့ရသည်။
**ဒူးရိုးဒူးရား** ........ မဆင်မခြင်။ ရိုးတိုးရားတား။ ကမူး ရူးတိုး။ အလိုတကြီး။ ရိုက်ရိုက်ရဲရဲ။
**ဒေါ်မား** ........ အိုးကြီး။

## ဓ

**ဓလေ့** ........ ........ ထုံးစံ။
**ဓဝယ်ညှင်း** ........ အမိုး။အုတ်ကြွပ်။သက်ငယ်။
**ဓါးဆော်ကမ်း** — တဖက်သားကိုယုံ၍အလိုစိုးလွဲသည်။ သစ္စာဖျက်၍ ရန်သူဖက်သို့ ပါသည်။ (ဆောက်=ဓါးရိုး။)။
**ဓိမိုင်း** ........ ........ အကြီးအကဲ။အကြီးအမြတ်။ ကြီးမြတ်သည်။

## နိ

**နခေါ်နကြည်း** အောင့်သီးအောင့်သက်- စနောင့် စနင် ရှိသည်။ (နခေါ် နချည်း လည်းတွေ့ ရသည်)။

**နမျုန်လ** ........ နယုန်လ။

**နရက်** ........ ........ ငရဲ။ အဝိအရပ်။ (ပါဠိ-နိရယ)။

**နရန်း** ........ ........ ထုံးစံဥပဒေ။

**နဝေနစည်း** ........ နာဝေနာစည်း။

**နက်** ........ ........ မတိမ်-မလွယ်ကူ-ခဲယဉ်းသည်။ ။ လယ်ယာ စသည့် တို့မှ ထွက်သော အသီးအနှံ။ ။ဥယျာအနှစ်။ ။အနှစ်။

**နက်ကိ** ........ ........ အနှစ်သာရရှိသည်။ အဟုတ်အမှန်။

**နက်စံ** ........ ........ နက်နဲသော။

**နက်တံ** ........ ........ အတိမ်အနက်။ ။အနှေးအလျင်။ အဟုတ်အမှန်။

**နက်သတ်** ........ နက္ခတ်။

**နစ်** ........ ........ ........ နောက်သို့ပြန်-ဆုတ်-မြုပ်သည်။ ။ စီခြယ်သည်။ ကျူးသည်။ (ခရုသင်းစစ်။ လင်္ကျာရစ်ဝယ်။ စီနစ်ရတနာ။ ခြယ်သန်းဖြာ၍။ ။မြတ်မင်္ဂလာချီရတု။)

**နစ်နော** ........ ........ အမှာအဆုံးတိုင် နှိုင်းယှဉ် ဆင်ခြင်သည်။ ။အသုံးစုံအကုန်အစင်။

နည် ...... အနယ်။အနယ်အနှစ်။
နည်း ...... ချစ်ခင်မြတ်နိုးသော။
နတ်ကိုး ...... နတ်တင်၊ နတ်ကိုးကွယ်သည်။ ။ နောင်တင်ပပါညေ့်ဟုဒိုက်ခ်စသော တစုံတရာဖြင့် ကတိထားသည်။
နတ်ပွဲပွယ် ...... နတ်တင် ပရာတွင် လျှောက်ဆိုခြင်း ( အသွယ် အသွယ်။ နတ်ပွဲပွယ်။ နှာသွယ်သူ့နှုတ်လျှာ။ သတ်ပုံသစ်။
နတ်လ ...... ...... နတ်တော်လ။
နတ်လျှောင်းလ - ဝါဆိုလ။
နန့် ...... ...... တုန်လှုပ်သည်။
နယ်နူ ...... ...... မဲနယ်နူ။မဲပြာရောင်။
နာဝေနာစည်း - နှလုံးမသာ နာကြည်းသည်။
နားပါးမှုတ် / နားမှုတ် ...... နားဝင်အောင် ဖြည်းညှင်းစွာ ပြောသည်။
နိပ် ...... ...... ကုန်ခန်း-စင်ထွက်-နွမ်းနယ်သည်။
နိမ့်နင်း ...... မညီမညွတ်။
နိုယ် ...... ...... နေ။
နိုယ့် ...... ...... နေ့။ (ကျောက်စာ)။
နုပျ ...... ...... တိုးပွားစည်ကားခြင်း။
နုတ် ...... ...... ထုတ်ယူ-ထုတ်ပစ်-ကုတ်သည်။

**နုပ်** ...... ...... ယုတ်နိမ့်-သေးသိမ်သည်။

**နေရဗ္ဗာန်,နေရဗန်**-နိဗ္ဗာန်။ (သင်ကရိုက် ဘာသာမှ လာသည်)။

**နေအစ်** }
**နေအပ်** } ...... နေပူသည်။

**နောက်နစ်** ...... နောံသို့-အခါသို့ ပြန်သည်။ နောံသို့ ဆုတ်သည်။ ။နောံကျသည်။ ။ တွန့်တို - တွယ်တာ - ကပ်ငြိသည်။ အသွဲ့သို့ချော်သည်။ ။အားအင်ကို လှီးလှီးလျှော့သည်။

**နောင်မယ်** ...... မောင်ကြီးနှင့်နှမ။မောင်မယ်။

**နံကာ(လ)** ဝါခေါင်(လ)။

**နို့ခမ်း** ...... ...... နို့ချဉ်။

## နွ

**နွယ်တာလ** ...... ဝါဆိုလ။နတ်လျှောင်းလ။

**နွယ်ဖျား** }
**နွယ်လန်း** } နွယ်နှာမောင်း။

**နွံ** ...... ...... ...... နှိပ်စက်-နွံနှာ-ကျိုးနွံ-အပိုးသော်။

## နှ

**နှမြော** ...... ရုံမက်မြတ်နိုးသည်။

**နှရား** ...... ကြော့မွယ်တနန်း။ကြော့[illegible]မ်းသော်။

နှဲ့ရွဲ့နှဲ့ရှု ........ ရုံ့မဲ့၍ငိုသည်။

နှင်းနှိုး
နှင်းနှိုင်း
နှင်းပန်း
နှင်းပန်းနှိုင်း
} တူသည်။ ရည်တူ။ အတူ။

နှစ်မြှိုက် ........ အားရဝမ်းသာရှိသည်။ ။ကြိုက်-ချစ်-စုံမက်-မြတ်နိုးသည်။

နှစ်ဆစ် ........ တဖန်။

နှစ်ထောင်း
နှစ်မြို့
} နှစ်သက်သည်။

နှစ်ရှောင့်နှစ်ရှား- နှစ်သက်သည်။

နှည် ........ ........ နှိပ်နင်းအောင်မြင်သည်။

နှုန်းနှိုင်း ........ တူသည်။ရည်တူ။အတူ။

နှမ်း ........ ........ ပြောက်ကြားသော။ ။ပြောက်ကြားသောအဆင်း။

နှိုး ........ ........ အခင်းအခံ။

နှုတ်ခြည်ရန်း - နှုတ်ထွက် စကားဖြင့် ကာဆီး ဆို့ပိတ်သည်။

နှုတ်ခြည် ........ နှုတ်ထွက်စကား။

နှုတ်ငံ ........ နှုတ်ခေတ္တသည်။ အပြောတတ်သည်။

**နှုန်း**
**နှုန်းနှုန်း** } ........ တူသည်။ရည်တူ။အတူ။
**နှုန်းနှိုင်း**

**နှဲ့ကော** ........ ညောင်းစေးဖြင့် သုတ်၍ ငှက်ထောင်သောအရာ။နှဲ့တံ။ ညောင်တံ။

**နှဲ့တံ** ........ ........ ကပ်စေး။(ထမင်းနှဲ့)။

**နှောင်းစို** ........ ကြာမြင့်သော နှောင်ကာလ။ နှောင်ကာလ။



**နွေး** ...... ...... အနွှံ့နွှါသည်။ နွှင်သည်။

**နွှံ့နှည်** ...... ...... နှိမ်နင်းအောင်မြင်သည်။



**ပ** ...... ...... ...... ထွန်းလင်း-တောဝ်ပသည်။ ။ပျောက်ပြယ် တိမ်ကောသည်။

**ပကတူး** ...... ...... အစဦး။ မူလရင်း။ ရှေးဦးစွာ။ (ပါဠိ-ပကတိ)။

**ပခုံးညွန့်** ...... ...... ဦးခေါင်း(လည်ညွန့်)။

**ပစိ** ...... ...... နှိပ်စက်-ညှဉ်းဆဲသည်။

**ပစေးပအူ** ...... မရှိမသေ မချေမငံသောစကား။

**ပတီး** ........ အပေါ်တင်ပုဆိုး။

**ပတုန်ပလဲ့** ........ အကုန်အစင်။အကြွင်းအကျန်မရှိ။

**ပတူပယင်** ...... ဖွဲ့ဖွဲ့နွဲ့နွဲ့ပြုသည်။

**ပတေပတာ** ...... ရိုရိုသေသေ။

**ပနသ** ...... ပိန္နဲသီး။(ပါဠိ)။

**ပနှိပ်ခါး** ...... ပလိပ်ခါး။

**ပရိုင်း** ..... တံတိုင်း။ မီးတား။ အသီးအတား။ (ပါဠိ--ပရိဝေဏ)။

**ပလာ** ...... ဟင်းလင်း။အကာအရံမရှိ။

**ပလိပ်ခါး** ...... ပနှိပ်ခါး။ မောင်းချခါး။ ကျိတ်ခါး။

**ပလီပလာ** ...... ဟီဘိ တာတာ လည်ဆယ်ပြောသည်။ မဟုတ်မလျှားပြောသည်။

**ပလုပ်ပလောင်း**–ပါးပြည့် ဖေါင်းအောင် စားသည်။ [ပါးလုပ်ပါးလောင်း]။

**ပလေ** ...... ဂုံးတိုက် ချောစားသည်။ ကဲ့ရဲ့ရှုတ်ချပြောသည်။

**ပလေလက်ချား** –ပေါ့လျော့ - သိမ်ဖျင်း- ပေါ့ပျက်သော စကား။

**ပလေးပလာ** ...... မရည်မင်ပေါ့ပျက်သည်။ ။ မလေးမစားပျက်ပြယ်သည်။

**ပလော** ...... ဖြောင့်စင်း- ဖြောင့်မတ်-မှန်ကန်သည်။

**ပအူပစေး** ...... ပစေးပအူ။

ပက်ပည် / ပက်ပင်းပါ / ပက်ပါ ...... တည့်တည့်။ တရှု။ ရင်ဆိုင်။

ပင် ........ ပင်ပန်းသည်။

ဝင်ထွက် ........ ထန်းပတ်များစင်၍ ပင်လုံးချည်း ရှိသော အရွယ်သို့ရောက်သော ထန်းပင်။

ပဇ္ဇု ........ ပုဆိုးဖြူ။

ပည်း / ပည်းရှု / ပည်းဖြင် ...... အများ။ပေါများသည်။

ပတ်ကုံး ...... အရပ် မျက်နှာ တပြင်လုံး။ အရပ် ထက်ဝန်းကျင်။

ပတ်တကုတ် ...... လွန်စွာကြိုးစားအားထုတ်သည်။

ပတ်လျ ယောကျ်ားမြို့။ ။နှမြို့သော၊

ပတ်လွှံ့ ...... ကျော်စောသည်။

ပန့် ...... အခွင့်တောင်းခံသည်။တောင်းခံသည်။

ပန့်စား ...... အလှူခံပုဂ္ဂိုလ်။

ပန့်ထွာ ..... ရှိသေစွာတောင်းပန်သည်။

ပန်ပုဂ္ဂိုလ် ..... အလှူခံပုဂ္ဂိုလ်။

**ပန်းစစ်လျှက်** .... (ပန်းစစ်ယှက်)။ ပန်းတို့ကို ကြိတ်၍ ဖင်း၊ ကြို၍ဖင်း၊ အရည်ပြု၍ဖင်း၊ ဖြိုးမှ ထွက်တက် ရည်ကို သွန်၍ ရသော အနှစ်အစိုင်ခဲ အပြား။ ။ပန်းပြားခဲ။ အမွှေးပြား။

**ပန်းတည်** | **ပန်းတင်** ... ခုံပလ္လင်။

**ပန်းတောင်း** ........ကွမ်းကပ်။

**ပန်းလည်** ........ စက်။ စက်တိုင်။ ပန်းစက်။ စက်ရဟက်

**ပပ်** ........ ပပ်ကြား ကွဲ-အက်သည်။

**ပယ်** ........ စပါး ငါးတင်း ကြဲရှိသော မြေကွက် အကျယ်။ ( စတုရန်း အတောင်ပေါင်း ၁၂၀၀။ သို့မဟုတ်၊ ၁.၇၅ ဧက ရှိ မြေကွက်)။

**ပါဝါရ** ........ ဖြူစင်သော အဝတ်။ အပေါ် တင်။ ရုလျှား။ ပုဝါ။ (ပါဝ္ဂ)။

**ပါး** ........ အနီးအနား။ ။ရှား-လွှာ- နည်းသည်။ ပေးကမ်းလိုက်သည်။ ။ပါးပြင်။

**ပိလူ** ........ ပိတုန်း။

**ပိတ်စပ်** ........ ဂဏ်သတင်းပျံ့နှံ့သည်။ ။ပတ်ကုံး ထက်ဝန်းကျင်။

**ပိတ်ပေါင်း** ........ ပုတ်ပေါင်း။

**ပုရစ်** ........ အဖူး။အညွန့်ထွက်စ။ဖူးစ - ငုံစ - ပွင့်စ ဖြစ်သောအညွန့်အရွက်များ။

**ပုရည်** ........ ဆန်စပါးသွတ်သောစလွယ်။ ။ထည့်စရာ။ ။တောင်းပလုံး။ (သတိပဋ္ဌာန် ခို့သျှ ပေါင်းများတွင်၊ တောင်းပလုံး အနက် ရှိသော - ပုဋောလိကို။ပုရည်ဟု အနက်ပေးသောဇနာဖြ)။

**ပုလုကွေးလေး**--သေးငယ်သော။

**ပုလဲတမူး** ........ နှစ်သက်လေးမြတ်သည်။

**ပုရှား**
**ပုဖြုာ**
**ပုဖြား** ....... ဘုရား၊ (ကျော်စာများတွင် ရေးလေ့ ရှိသည်။ ။ဖုရား--ကြည့်ပါဦး။)

**ပုဆွန်း** ...... ....... နှတ်ထိန်း၊ နှတ်နေ၊ နှတ်ဝင်သည်။

**ပုတ်** ...... ...... အောက်ကပင် မရှိဘဲ၊ ဝါးကြောခမ်း များကို။ အဝိုင်းယက်၍၊ နွားချေးသုတ် ထားသော စပါးထည့်စရာ။ အိမ်နှင့် တွဲထားသည့် အဆင့် ကြမ်း ပြင်ပေါ် မှာထားတတ်သည်။ ။ယခုသော် ဖင် ပိတ်ရှိသည်ကိုလည်း၊ ပုတ်ဟုပင်ခေါ် ကြသည်)။ ။ဇ၄ - တင်းဝင် ပေါ်း ထည့်စရာ (ဂဏန်းလက်ဘအလို)။

**ပုတ်ပေါင်း၊(ပုပ္ပေါင်း)**-........ချုံ။

**ပူအစ်**
**ပူအတ်** } ပူလောင်သည်။

**ပူးတည်း**
**ပူးပွတ်** } မကွာ။မကင်းမကွာ။အတူတကွ။

**ပဲ(ရှေးရေး)**- ပယ်။

**ပေါပည်း**
**ပေါဖြင်**
**ပေါယယ်** } အများ။ များစွာ။

**ပေါက်**
**ပေါက်သား** } ဆင်။

**ပေါ** ........ ပူနွေးသော။ပူနွေးသည်။

**ပိုလင်းကဲ** ........ အပြည့်အလျှမ်း။

**ပိုင်ကားနိုင်ထက်**-ငါပိုင်သည် ငါနိုင်သည် ဟူ၍နှိပ်စက်သည်။ အနိုင်ကျင့်သည်။ အခွင့်ပြုသည်။

**ပုံပေါလဘော** အပြည့်တင်းကျမ်း။

**ပုံယင်** ...... အပုံပေါများသည်။

**ပုံသွေး** ........ နှင်းယှဉ်သည်။

## ပျ

**ပျင်ကြီးခပ်** ........ များပြားသည်။
**ပျူငှါ** ....... ချစ်ဖွယ် ပြုသည်။ ယဉ်ကျေး ဖွယ်ရာ ပြုသည်။

## ပြ

**ပြဋ္ဌိ** ........ လက် ဆေး ခံ အင်။ ထွေးခံ။ (ပါဠိ-- ပဋိဂ္ဂဟ။ သက္ကတ--ပြတိဂ္ဂဟ)။
**ပြတင်း၊ ပြူတင်း**-လေသွန်တံခါး၊လေဝင်ရန်ဖေါက်ထား။ သောတံခါးငယ်။

**ပြတည်း**
**ပြတည်းချောင်း** } စက်ရာခန်းဆောင်။ အိပ်ရာခန်း။
**ပြတဲ**

**ပြတို** ........ ပြဋ္ဌိ။
**ပြက်ပြက်** ....... ထင်ထင်
**ပြင်** ....... အဆောင်။ ( ရာဇဝင်တွင်။ ထောင် ဆောင်ကို = တောင်ပြင်။ မြောက်ဆောင် ကိုမြောက်ပြင်ဟုခေါ်သည်)။

**ပြင်**
**ပြင်ကြီး** } ......သဲသောင်။

ပြင်းဟုပ် ...... ဓါးပြ။
ပြစ်ထုတ် အပြစ်အဆာ။ အပြစ်ဒေါသ။
ပြည်မကံကျေး - ပြည့်တန်ဆာမ။
ပြည့်လင်း ........ အပြည့်အလျှမ်း။ အပြည့်တင်းကျမ်း။
ပြည့်လှုံဝင်း ........ ကြွယ်ဝပြည့်စုံသည်။
ပြယ် ........ ပြယ်ရယ်ပြု — ပြောင်လှောင်သည်။
ပျောက် ပျက် စဲ ပြတ် သည်။
ပြာစစ် ........ ရေသောက်သောအိမ်ဖူး၊
ပြတ်ကြိုးမြက် ..... ပြိတ်ဟုခေါ်သော မြက်ပင်ကို ကျစ်
သည့်ကြိုး၊
ပြိန်းပြောင် ........ မပယားငယ်၊
ပြုတ်တု ........ အမြဲ၊ မြဲစွာ၊ မချွတ်မလွဲ၊
ပြုန်းတီး ........ ကျေပျက်-ပျက်စီးသည်၊
ပြူးတင်း ........ ပြတင်း၊
ပြုံ ........ ပြည့်သည်၊ ပြည့်စုံသည်၊
ပြုံပြုံ ........ အပြည့်အစုံ။ အထင်အရှား၊

ပြော
ပြောထူ
ပြောဖြင်
ပြောဟုန်
} အများ၊ များစွာ၊

ပြောင် ........ ကြီးသော။ အကြီး။
ငယ်သော။ အငယ်။
မစွမ်းမပြင်း၊
သွေ့ယောင်းသော၊
တညီတသွတ်၊ အကြီးအငယ် ညီသော၊
ထွန်းတောက် ထွန်းပသည်၊
အတင့်ခဲ၊ မျက်နှာပြောင်၊ မရှက်မ
ကြောံ။ သရော်- ပြောင်လှောင်သည်။

ဖြို့ ........ ပြည့်ဖြိုးသည်၊

ဖြိုးဖြိုး ........ ပြောင်ပြောင်လက်လက်၊

ဖြုံး ........ ပွါးသည်၊ များသည်၊ (နှသတ်မဟုတ်၊
။ ။ပူဇော်သည် ဟုံး၊ မီးစခြုံး။ ပွါး
ဖြုံး ရောင်ရှန်းရှန်း၊ သတင်းသစ်။

# ပွ

ပွက် ...... မိန့်မြွက် ပြောဆိုသည်၊

ပွတ်တွန်း ...... ညီညွတ် ချောမောအောင် ပြုသည်၊
အချောတိုက်သည်၊

ပွန် ကျေပွန်-လိမ္မာ-ဘတ်သည်၊

ပွန်းတီး ...... တတ်သိလိမ္မာသည်။ ။အကျွမ်းတဝင်

ပွဲ ...... မရှိပြီ။ ကုန်စင်ပြီ။ ပြီးဆုံးပြီ။

## ဖြ

**ဖြိုပ်** ...... ဖွပ်လျှော်သည်။ ။ဆေးဆိုးသည်။

**ဖြေ** .... ပုလွေ၊

**ဖြေ့တပ်** ........ တပ်စွန်းချစ်ခင်သည်၊

**ဖြွံ** ........ နှုလုံးသွင်း- လေ့လာလေ့ကျက်သည်

## ဖ

**ဖ** ........ အသင်း၊ အဓိ၊ အဖ၊

**ဖရင်း** ........ ထွန်သွား၊ သံထွန်သွား၊

**ဖရည်** ........ သေရည်သေရက်။ ။ယာစ်မူးသည်။

**ဖဝါးစတွန်း** ခြေဖဝါးဖြင့် ကိုယ်ရိပ်ကို တိုင်းထွာသည်။ (နေ့မိမာန်လည်း၊ ယုဂန်အနားဆင်လမ်းသွား၍၊ ဖဝါးစတွန်း၊ တည့်မွှန်းမထင်၊ ကိုယ်ရိပ်ဝင်က။ ။ရှိုင်ဥက္ကာပျံဆို- မယ်ဖွဲ့ရတု)။

**ဖအဲ** အသျှင်၊ အဖေ၊ ဖအေ၊ အဖ။

**ဖက်ထစ်** ........ အမြဲမကွာ၊

**ဖက်လဲတကင်း-** ဖုံဖုံမက်မက်နှစ်သက်ဖွယ်ပြုသည်။

**ဖင်** ........ တွယ်တာမက်မောသည်။ ။နှောင့်နှေးသည်။ ။မတည့်မကြည်။

**ဖင်ဖင်** ...... တွယ်တာမက်မောစွာ။
**ဖင့်** ........ လေးသ- လေးကန်- ဖင့်နွဲ့သည်။
**ဖါးခုန်ဖါးဆင်း**—မညီမညွတ်၊ နိမ့်နင်း၊ ချွတ်ယွင်းသည်။
**ဖိန့်** ........ တုန်လှုပ်သည်၊ (ပါဠိ၊ ဖန္ဒန ကလာ ဟာန်ရှိသည်)။
**ဖိဆန်** ........ မနာမယူ။ ကျူးလွန်သည်။
**လာ** ........ ကန့်လန့်၊ ကန့်လန့်ဆီးသည်။
**ဖုရား။ ဖြုား** ⎱ ဘုရား၊ (ကျောက်စာများတွင် ရေး
**ဖုရှား** ⎰ လေ့ရှိသည်။ ။ပုရှား ကြည့်ပါဦး)။
**ဖုတ်ကြည်း** – မီးဖြင့်တိုက် ရှိုသည်၊ မီးသဂြိုဟ်သည်။
**ဖုန်** ........ ထိုင်း-ထုံ-အ သည်၊
**ဖုန်းငရဲ** ...... ဘုံငရဲ။
**ဖုံန်းစား** ........ တောင်းစားသည်။
**ဖဲကြဉ်** ....... ရှောင်ခွါသည်။
**ဖေါင်းကန်** ..... အိုး။ထည့်စရာ။ ။(နွား ၃ ခု။ အရက် ၃ ဖေါင်းကန်ပိယ်းရှသည့်ဆော်စေ၏။ ။မင်း ကြီးစွာ- မိဖုရားကြီးကျောင်းကျော်စာ။)
**ဖိုရွှံ** ⎱
**ဖိုရွှံဖြင်** ⎰ ကြော်နှံ့သည်။
**ဖိုးလင်း** ..... အမျိုးအနွယ် ထိုတ်တန်သော။
**ဖုံးဖွက်** ...... ဝလောင်း။ အုံး ဒုံး။

## ဖျ

ဖျင် အဘိဉ်။ သင်တိုင်း။ နှုယင်။

ဖျား ...... တော။

ဖျား
ဖျားရေ } ဒီရေ။

ဖျော
ဖျော့ဖျော } ဖြော့ဖြော့- ကြည့်။

## ဖြ

ဖြဖြ ........ ညီညီညာညာ။ ဖြန့်ဖြန့်။

ဖြင်
ဖြင်ညီး
ဖြင်ပည်း
ဖြင်ပေါ
ဖြင်ဖြ
ဖြင်ပြော } အများ။ များစွာ။ များသော။

ဖြစ်ဖြစ် ........ အလုံးစုံ။

ဖြည့်ဖြား ........ သွေးဆောင်သည်။

ဖြည့်ဖြူး ........ ပေးကမ်းထောက်ပံ့သည်။

ဖြန်းတော ........ အလျှင်အမြန်၊ မြန်မြန်။

ဖြား<br>ဖြားယောင်း } သွေးဆောင်သည်။

ဖိုး<br>ဖိုးထပ်<br>ဖိုးထွေ } ပေါများသည်။အများ။

ဖြုတ်ချည်း ........ ခဏချက်ခြင်း။

ဖြုား ........ ဗရားကြည့်။

ဖြူး ........ ပေးကမ်းဖြန့်ဖြူးသည်။

ဖြောဖြော ........ များများ။သွက်သွက်။

ဖြိုး ........ ဖွံ့-ဝ-ကြီး ထွားသည်။ ကြွယ်ဝ-ပေါများသည်။

ဖြိုးဖြိုး ........ ပြည့်စုံခြင်း။

## ဖွ

ဖွေနည် ........ စုံစမ်း—ရှာဖွေသည်။

ဖွဲ့ ........ အဖျင်း။ ။သေးနုပ်သည်။

ဖွံ့ ........ ဖြိုးသည်။

## ဗ

ဗဟို ........ အလယ်။

ဗြာစစ် ........ ပြာစစ်။

## ဘ

**ဘနန်း** ...... လုနိုး၊ခမန်း။
**ဘဝင်** ...... အထက်။ဘဝင်ဘုံ။(ပါဠိ-ဘဝဂ္ဂ)။
**ဘင်** ...... အညစ်အကြေးမစင်။
**ဘယ်ဇာပြုအုံ** – အဘယ်ပြုအံ့။
**ဘာသာလဝါ** – ချစ်ခင် ကြင်နာလျက် နှုတ်ဆက်သော စကား။
**ဘုံငရဲ** ...... ငရဲဘုံ။ ။ငရဲဘေးသင့်သည်။
**ဘုံပတိ** ...... အပေါ်တင်ပုဆိုး။ရုလျား။

## မ

**မကန်** ...... အပြည့်တင်းကျမ်း။မဆန့်မိမေ့သို့။
**မကား** ...... နွားမ။
**မကုပ်လျှို** ...... ဝန်တိုခြင်းမရှိ။
**မကြွင်း** ...... အလုံးစုံ။
**မခေါက်မရက်** – နှမြောစုံမက် - နှစ်သက် - လေးမြတ်သည်။ ။ထော်ထောက် ညှာညှာ ပြုသည်။ ။မရက်မစက်။
**မနို့သရို့** ...... လို့လချိုသည်။ လိုးလမပြု။ ။မလေးမခန့်။

**မနိုင်းမမျှဉ်။မနိုင်းမမျှဉ်း**...... အဆီးအတားမရှိ။ ။ထိုး ထွင်းမြင်နိုင်သောဉာဏ်ပညာ။

**မချာ** ....... အစဉ်မပြတ်။

**မချေ** ........ မချေမငံ၊မသာယာ။

**မငြီးမငွေ့** ........ မပျင်းမရိ။နှစ်သက်စွာ။

**မစည်တရစ် (မစစ်တရစ်)** ..... မဖွယ်မရာ။(မနှစ်မရှား)

**မစောက်** ........ မနက်။တိမ်သည်။လွယ်ကူသည်။

**မဆူးမရား** ........ မတော်မတဲ့။မတင့်မလျော်။

**မဆံ မဆွက်** မချွတ်မယွင်း။

**မဆွ** ...... ရှေးဦး။ရှေးဖျား။ရှေးဦးစွာ။

**မညောင်း** ........ မကြာမရှည်။

**မညံ့** ...... မပြတ်မစဲ။

**မတကာ** ...... မသင့်မတော်။

**မတန်း** ...... ပျိုနုသော။ အပျိုအရွယ်။ (နွားမတန်း ။

**မတီမရား** ...... မအပ်မရာ။

**မနှစ်မရှား** မဖွယ်မရာ။မလျော်ပတ်။ ။သနားရုံ မက်သည်။

**မပြုန်းမကျည်** - မပြုန်းမတီး။မပျက်စီး။

**မဖပ်** ........ မတိမ်းမညွတ်။ တည့်တည့် ဖြောင့် ဖြောင့်။

**မဖီ** ........ မယိမ်း။မသွေ။

| | |
|---|---|
| **မနိုမထင်း** / **မမိုမရွား** | …… မဟောင်းမနွမ်း။ အသစ်စက်စက်။ |
| **မမြောင်** | …… မဆင်ခြင်။ ရှေးရေးနောင်ရေးကိုမမြင်။ |
| **မယွက်** | …… မယွင်းမသွေ။ မယွင်းမပျက်။ |
| **မယွန်း** | …… မကောက်မကွေ့။ ဖြောင့်ဖြောင့်။ |
| **မသွံ** | …… မယိမ်းမရိုင်။ဆုတ်နစ်ခြင်းမရှိ။ |
| **မယှောက်** | …… မယိမ်းမယိုင်။မပျက်မစီး။ မငြိမစွန်း။ |
| **မရက်မစက်** | …… မခေါက်မရက်။ |
| **မရဲ** | …… မရောင့်ရဲ။ |
| **မသြုံမသြုံ** | …… မကြောက်။ |
| **မရှောက်** | …… မယှောက်။ |
| **မဝယ်မလှယ်** | …… မလှမ်းမှီ-မကမ်းမှီရှိသည်။ |
| **မသီး** | …… မတ်တတ်နိုင်။မစွမ်းနိုင်။ |
| **မသုန်** | …… မကောက်မကွေ့။နောက်မဆုတ်။ |
| **မဟိ** / **မဟော့** / **မဟဲ့** | …… မရှိ။ မတွေ့။ |
| **မအော့အမ်း** | …… အကျင့်သွမ်းသည်။ |
| **မင်းများ** | မင်းမယား။ မင်းသား။ မင်းမြေး။ မင်းများ။ မင်းသမီး။ ။အနွယ်ရထား မင်းစောသမ္ဗာပြုကျောက်စာ။ |

မန်တိုင် ...... ဗဟိုအချက်အချာ။
မန်း ...... စံကော။
မယ်န ...... သိမ်ချွန်။သိမ်မှို။
မယ်မျှုး ...... အိုးခင်း။
မိကနား ...... မိသမျှ။(လုပ်မိကနား–လုပ်မိသမျှ)။
မိညဲ ...... မိန်းမ။ ။မိန်းမကလေး။ ။မိမိမယ်မယ်။
နှမ။ ။မယား။
မိဖျား ...... မိဖုရား။ (မိဖြားလည်းရှိသင့်သည်။)
မိမ ...... မိန်းမ။ (ကျောက်စာများတွင်ရေးလေ့
ရှိသည်။ ။မေးမ·ကြည့်)။
မိသျှဇာ ...... မယား။
မိတ်လင် ...... အပေါင်းမိတ်ဆွေ။
မိန္နုး ...... ငြိမ်သက်သည်။
မိးကီး(ရှေး)
မိးကျိး(ယခု) } မီးခဲ။
မိးတင်းကုပ် – စားမိုးအိမ်။ထမင်းချက်ရုံ။
မိးတား ...... တံတိုင်အကာအရံ။
မိးနေ
မိးဖွား } ...... သားဖွါးသည်။
မိးမယ်မျှုး ...... မီးလင်းမှို။မီးအိုးခင်း။
မိးယပ် ...... သားဖွါးပြီးနောက်ခိုက်သော။

**မီးရှူး** — မီးစည်း။

**မီးရှူးမြင်** ...... သားဖွားသည်။

**မုဒိန်း** — စည်၊(ပါဠိ–မုဒိင်္ဂ)။

**မုဒိမ်း** ..... ရန်ဘေး၊ခိုးသူ။

**မုနော** . — အတင့်အတယ်။ ။အာသရေ။ ။အာသရေရှိသည်။

**မုတ်နား** ...... မုတ်ဆိတ်။

**မှူထား** ...... အမှုအကျင့်၊

**မှူးမှူး** ...... လုနီး၊လုမတတ်၊သဲသဲ၊

**မေးမ** — မိန်းမ(ယောက်ယားကြည့်)၊

**မဲ့** — မရှိ၊

**မောသော** ..... ခိုးသူ(ပါဠိ-မောသော၊မုသ)၊

**မောင်နည့်** ..... ချစ်သား ချစ်လင်၊

**မောင်နို့** ..... လင်မယား၊

**မောင်မယ်** — လင်နှင့်မယား၊

**မော်ကွန်း** — ဘိုးနန်း အကြောင်း စသည် ရေး ထား သောအက္ခရာမှတ်စာ၊ ကမ်းထိပ်ကမ်းစွန်းအဝှုပေါ်တွင် တည်ထားသော အဆောင်အဦ-သို့မဟုတ် ဗိမာန်၊ ပြတ်မှု တဆောင်၊ နေအရောင် လည်း ရွှေရောင်ရှို့ရှို့၊ ပတ်မတို့သား၊ သုံးဘို့ ဦးစွန်း၊ မြတ်မော်ကွန်းကို၊ ဝေးလွန်

ခရီး ပန်းကြီး ဆန်ကြွ မဖူးရ၍ ဝေး ကပင်သာ။ ပန်လျှောက်ပါအံ့။ ။နဝ ဒေးကြီးဆို မကွေး မြဲသလွန် ဘုရား။ တိုင်ရတု၊ ဤတွင်၊ မေဘ်=အစွန်း၊ ကွန်း=ဘုံဗိမာန် သို့မဟုတ်၊ ဘုရား၊)

**မိုရှာ**
**မိုထင်း** ...... ညစ်နွမ်း-ဟောင်းနွမ်းဆွေးမြေ့သည်၊
**မိုးနှောင်းသံထင်** .... အနာဂတ်ကာလ၊နောင်အခါ၊

ဤ (မိုးနှောင်း သံထင်) -ဆိုသော စကား၏ အဓိပ္ပါယ်ကို၊ ပေါရာဏ ကထာကျမ်းပြုတော်မူကြသော ဆရာ ကြီးဆရာမြတ်အများကပင်၊(ဘုန်းတန်ခိုးအာဏာကြီးသူ )(ဘုန်းသမ္ဘာပညာကြီးသူ-)အဓိပ္ပါယ် ရှိကြောင်းမိန့်ဆိုတော်မူကြသည်၊ ၊သို့ရာတွင်၊ ရှေးစပ်ချင်းစာကိုယ်များကို ကြည့်သောအခါ၊ ၎င်းအဓိပ္ပါယ် မရ၊ စကားလုံးများကိုယ်တိုင်ကိုဗိစစ်ကြည့်သော အခါ လည်း၊အဆိုပါအဓိပ္ပါယ်အမျိုးမရလေ (အနာဂတ်ကာလ) (နောင်အခါ-)ဟူ၍သာ အဓိပ္ပါယ်ထင်လာ၏၊ ၊အဆိုပါ ဆရာကြီးဆရာမြတ်တို့ ခေတ်အခါဆီက၊အထက်ကပြခဲ့ သော အဓိပ္ပါယ်မျိုးနှင့် သုံးနေ၍ ပင်ဖြစ်လိမ့်မည်လားဟု တွေးရပါတော့သည်။ ။ဤသို့ ဆင်ခြင်နေဆဲ။-မန္တလေးမြို့ ဆရာဖေထံမှ၊ ၎င်းစကားကို- (အနာဂတ်ကာလ)-

အဓိပ္ပါယ်နှင့်၊ ဓေါလဝန်း ဘုရားကျောက်စာတွင် သုံး
ကြောင်းကြားသိရလေသည်။ ။ယခုအခါသော် အများ
တို့ဆုံးဖြတ်နိုင်ရန်၊ထိုဆရာတော်ကြီးများအလျောက်ကရှိနှင့်
သောစာကိုယ်တို့မှ၊ ထုတ်နှုတ်ချက်များကို ပြပေအံ့။

ရှေးဦးစွာ ကိုးကား၍ ပြကြမ်ဖြစ်သော ရှင်မဟာ
သီလဝံသရေး-ဆုတောင်းခဏ်းအပိုဒ် ၁၅၂-ကို အပြည့်
အစုံပြပါအံ့။

“ပမာနိုင်းချ၊နှုန်းနှုန်းဆအံ့။ဘူမနက်သံ၊မြေကြန်သူပြီး
လုပ်ပွန်းတီးသည်။အသီးစားနေ့၊ ဗိုက်မိရွှေ့လျှင်၊ တစေ့
အ ငွက်၊တပင်နက်ကို ပုတ်ကက်သရိုင်၊ထည့်မနိုင်မျှ၊ လို
တိုင်းရသို့၊ကြားကလူတွင်၊ ယုတ်မြတ်အင်ကို၊ နားဝင်သိ
ကြိုး၊ငါလျှင်တုံလည်း၊ ငုံစုံပစ်မိ အနန်သိအလား၊ ရှည်လျား
ကန္တာ၊သံသရာတွင်၊အကြင်မျှလျောက်၊မပျော်ခန္ဓာ ရင်း
ချာသန့်သန်၊နိဗ္ဗာန်မြေခိုင် မတိုင်သရွေ့၊ ဘုန်းမျိုးပေ့ကို၊
လွှေ့လွှေ့များများ၊ဗိုက်ပြ ပြပ်ထားလျက်၊ဘုရားသခင်၊၍
ချစ်ရှင်ဝယ်၊ခုခါရွှယ်၍၊ လိုမယ်လိုတောင်း စုံစေကောင်း
၏။မိုးနှောင်းသံထင်၊၍တွင်မေ့ကျန်၊သည့်မှလွန်သော်၊မ
ထွန်မြေအား ကြချေမှားသို့၊မပွါးနှောက်ရှုန်း ကာလသုန်း
ဝယ် ရွှေဘုန်းဘုရား၊ ကြိုးကြားပွင့်ခဲ့ မကြိုက်ပဲမှု၊ တကဲ
တကဲ အမြဲမဟုတ်၊ နှောင်းနှောင်းယုတ်၍၊ နေခံဆုတ်မျိုး
နည်း အရှည်ဆည်းသော်။ အချည်းမရှိစေထိုက်တည်း။”

အဓိပ္ပါယ်အချုပ်မှာ၊မြေကောင်းရာ၌မိုးအခါ၊မျိုးစေ့
စိုက်ပျိုးသော်၊ အသီးအနှံ ပြည့်စုံစွာရသကဲ့သို့၊ ငါသည်
လည်း၊ ဤဒီပင်္ကရာဘုရားတည်းဟူသောမြေရာကောင်း၊
အခါကောင်းမှာ၊ကုသိုလ်မျိုးစေ့ပြုရာသည် ဤတွင်မပြုမိဘဲ
နောင်အနာဂတ်ကာလမှ မိုးမရှိသောမိုးနှောင်းအခါနှင့်တူ
သည့်ဘုရားနှင့်မတွေ့ကြုံသောအခါတို့၌၊ကုသိုလ်မျိုးစေ့
စိုက်ပျိုးချေသော်၊ အကျိုးမရှိ အချည်းနှီးဖြစ်ရာချေသည်၊
သို့ငြင့်၊ ဤယခုအခါကောင်းမှာ ငါသည် ကုသိုလ်မျိုးစေ့
စိုက်ပျိုးထိုက်၏ ဟု အဓိပ္ပါယ်ကောက်၏။

အဆိုပါသဂြာကြီးများကမူ ဤအချက်၌၊ (ဘုန်းသမ္ဘာ
ပညာကြီးမြတ်သောသူ-ဒီပင်္ကရာဘုရားကိုဆိုသည်၊) ဟု
မိန့်ဆိုတော်မူကြသည်၊ ၊ဤမိုးနှောင်းသံထင်ဟူသောစကား
ကို၊ ဆုတောင်းခန်း လင်္ကာအရဖြင့်၊ (ဘုန်းပညာကြီး
မြတ်သူ၊ဒီပင်္ကရာဘုရား) အဓိပ္ပါယ်ရောက်အောင် ကြံ၍မရ
ပါ၊(မိုးနှောင်း)မှာ မိုးကုန်ခါနီး သို့မဟုတ် မိုးကုန်သော
အခါဟု အဓိပ္ပါယ်ရိုးရိုးသာ ကောက်ရသည်၊

(သံထင်)မှာ၊(သန့်ထင်)က လာဟန်ရှိသည်၊(သန်)မှာ
(ဝသန်=ဝသန္တ)က လာသည် ၊(ဝသန္တ)မှာ၊သိသိရ၊
ဝသန္တ၊ဂိမှာန၊ ဝဿာန၊သရဒ၊ ဟေမန္တ ဟူသော ရတု
ခြောက်ပါးတွင်ပါဝင်သောဝသန္တရတုကိုဆိုသည်၊ဤရတု
မှာ၊မြန်မာပြည်တွင်၊ အကြမ်းအားဖြင့်၊ တပေါင်းလဆုတ်-
၁-ရက်က၊ကဆုန်လပြည့်အတွင်းလောက်ကျသို့ (လယ်တီ
ပဏ္ဍိတ ပေါ်ဦးအဘိဓါန်နှင့်ဗုဒ္ဓဘာသာစနသင်္ဂဟကျမ်းကို

ကြည့်ပါ)၊ ၊လိုရင်းကား၊မိုးမရှိသော၊ ခြောက်သွေ့သော အခါကိုပြသည်၊ သို့ဖြင့်မှတ်လော၊ ဈေးဆရာတို့က၊(...... နှင်းယွန်းဝသန်နွေ၊ ရုံမြိုင်ခြေဦး၊ သာဟန်သာဆန်းထူး) ဟူ၍ဖွဲ့ဆိုခြင်း၊ ( .....ချိန်နှောင်းဝသန်ခါချိန်တန်က၊နှင်းမြမြနှင့်) ဟူ၍ဖွဲ့ဆိုခြင်း၊စပ်ဆိုတော်မူကြသည်။ ၊(သန်)မှ (သံ) ဖြစ် လာခြင်းကား၊ (ဝတံသာ)မှ (ဝတ်နံ့သာ)သို့၊ (ဝေသံ တရာ မှ (ဝေသန်တရာ)သို့ပြောင်း၍ ရေးကြသည်ကို ထောက်သဖြင့် [နသတ်]မှလည်း [သေးတင်]သို့ပြောင်းနိုင် ရန်ရှိ၏၊ ၊သို့ရာတွင်၊[သန်] ဟု- နသတ်နှင့်ရေးခြင်းက သာ၍ သင့်လျော်လိမ့်မည်ဟု ထင်ဘွယ်ရှိ၏၊

(ထင်)ကား၊ ထင်လာခြင်း၊ ပေါ်ပေါက် လာခြင်း အဓိပ္ပါယ်ရှိ၏

သို့ကြောင့်၊စကားနှစ်ရပ်ကိုပေါင်းသော်၊[ အချိန်လွန် သော—နှောင်းအခါ ] ဟု အဓိပ္ပါယ်ရောက်လေသည်၊

သစ်ဆင်မ့်ဆရာတော်ရေး— ပေါ်ရာဇာဋီကာတွင် ကိုး အပ်သောတွင်းသင်းမဟာစည်သူရေး၊မဟာဇနကပျို့အပိုဒ် ၁၀၈-တွင် (ကောင်းကျိုးသမ္ပာ၊နိုးရင်းပါ၍၊ရာဇဗ္ဗာနိ၊ ပူရိအောင်မြေ၊ မွေးချက်ကြွေလျက်၊ ဝိဒေဟာတိုင်း၊ ဝိုက် သိုင်းဖုန်ချောင်း၊ တုံချင်းပျောင်းသား၊ မိုးနှောင်းသံထင်၊ ဘုရင်စောလှ၊ဩဝါဒဒွ၊နှမ့်ချရှိသေ မြတ်နိုးတွေ့ဖြင့်)၊ ဟု စပ်ဆိုရာ၌ကား၊ မိုးနှောင်းသံထင်မှာ၊ (ဘုန်းသမ္ပာကြီး

ဖြတ်သူဘုရင်)ဟု-အဓိပ္ပါယ် ရောက်လေသည်၊ ၊သို့ရာ
တွင်၊ဤပုဂ္ဂိုလ်ကြီးမှာ။ နောက်ဆရာများ ခေတ်တွင် ပါ
ဝင်လေသည်။

---

ကျောက်စာများကိုပြပေဦးအံ့၊

ပုဂံ မင်းနန်းသူရွာ တောင်ဖက်ရှိ။ သက္ကရာဇ်-၅၉၅။
၅၉၇-ခု ကန်ထားသော ဓံသီးဘုရားကျောက်စာ။
"...... ဤငါ့လှူသောကောင်းမှုကိုဘ်။ မိုင်းနှောင်းသံထင်၊
ဖုန်းတန်းခိုး-သဒ္ဒါအန်အားနှင့် ပြည့်စုံသော သူတာဘ်သူ
ဖြတ်တိုဘ်၊အရိယ်အရံယူရစ်ပိယ်သောသူတို့ကား၊ ဤလူ
တွင်လေးအန်တရယ်မဟိသောဖြစ်ရယ်၊အသက်ရှည်စွာ
နိုယ်ရပိယ်၏။ ။နောင်အခါ၌၊ငါ၏ကောင်းမှုကိုအရေး
အဂ္ဂာယူရစ်ပေသောသူတော်သူဖြတ်တို့=ဟူ၍အဓိပ္ပါယ်
ရှိသည်၊

---

ပုဂံမြို့၊လေးထောင့်ကန်အရပ်၊စောလဝန်းဘုရားမုတ်ဂူ
အတွင်းရှိ၊ သက္ကရာဇ်-၆၂၆၊ ၆၅၂၊ ၆၅၃-ခု၊ကန်ထား
သော၊ ရတနာသုံးပါးအား၊ လယ်မြေကျွန်းသီးတော်
လှူသည့် စောလဝန်းဘုရား ကျောက်စာ။ ။

"........သကရစ်-၆၅၃ ခု၊ ဗိသနှစ် တန်ခူးလပြည် ၅
နိုယ်အစပ်ရစသူမသာသောအမိုဝ်ကြောင်ရတနာသုံးပါး
ကိုဝ်သာသနာ-၅၀၀၀-လျှင် အခါခပ်သိမ်းတည်ရစ်ဗိယ်

ချင်ရကာ၊မြိတ်နှောင်သံထင်အခါ အကြင်လိုက်သဆုမရော်သိယ်သချယ်ကာ အရွယ်မရောက် တယ်အနာသွန် ဆယ်ခြင်အနိတခဲကာအဖြစ်ရဝိယ်ဟု ”။ ။၌တွင် နှောင်အခါဟူလိုသောဆုကို မရသေးသ၍ ဟူ၍ အဓိပ္ပါယ်ထင်ရှား၏။ အခါဟူသော စကားနှင့်တွဲ၍ သုံးသည်ကိုလည်းဆင်ခြင်လေ။

ပုဂံမြို့ ဖွားစောရွာအနောက်ရှိ။ သက္ကရာဇ် ၆၂၇-ခုကန်ထားသော၊ကုသ သမုတိဘုရားကျောက်စာ။

“……နှောင် မိုးနှောင်းသံထင်အခါ။ အဆင်အခြင်သိကြွားပညာသဠါယံကြည်၊ နှလုံးတည်သော မင်းမြတ်တို့ကျင်လည်းကောင်း။ အမတ်တျာကစသော သူတို့ကျင်လည်းကောင်း။ ၌ယ်ငါလှူသောအလှူကို၊ အရိယ်အခံယူရစ်အံ့။စောင်မချစ်ရစ်အံ့။ထောက်ပံ့ရစ်အံ့' ထိုသို့သောသူတော် သူမြတ်တို့ကား။ ငါနှင့်အကျိုးထပ်တူ ရပါစေသတေး ..”။၌တွင်လည်း–နှောင်အခါ–ကိုပဝိဆိုသည်။

ပုဂံမင်းနန်းသူရွာတောင်တွင်ရှိ။သက္ကရာဇ်၆၂၀-၇၅၁ခု ကန်ထားသော။ မင်းလိုဂ္ဂဇာ သေနာပတိ ကျောင်းကျောက်စာ။

“၌ငါလှူရသောအကျိုးကား။ မိုးနှောင်းသံထင်အခါပုရှာဆုလျှင်ရလိုသတေး ……”။

သက္ကရာဇ်·၇၀၄-ခု၊ စစ်ကိုင်းကျစွာမင်းကြီးလှူသော အဘယကြီးကျောင်းကျောက်စာ။ (စစ်ကိုင်းမြို့ အရှေ့မြောက် ဝတ်ချက်ရွာတွင်ရှိသည်)။ ။

“… ငကောင်းမှုကို ဒုက်သသူကား၊ ငြယ်ပုံ ဤမျှ ကြီးမ ကသောဘုရားတို့ကိုမဖူးပိယ်ကုန်သတေး။ ။ဤလုလက် ထက်လေး၊ ချံ သောဟူသည်၊ အတည်မဟိစေသတေး။ ။ အဖြစ်ဖြစ်သောဘုရားချွတ်ရယ်ဟို၊ မကျွတ်ရာသော ငရဲသစ် ငုတ်၊ ဖြစ်ပိယ်သတေး။ ။ဤငါ လှူသော အကျိုးကား မိုးနှောင်းသံထင်။ လူတွင် ဘုရားဖြစ်လိုသတေး။ ။သဗ္ဗ သတ္တဝါ လူနတ်တကာ၊ ရစေပါပိယ်သတေး။”

---

သက္ကရာဇ် ၇၇၃ ခု ကန်ထားသော၊ ရွှေကျောင်းသမိုင်း (မူလကျောက်စာမှကူးထားသောပေစာ၊ ယာချပုဂံမြို့စာရေး ဦးဖို တော်ထံတွင်ရှိသည်)။ ။

“ဤသို့မင်းကြီးနှင့်ငါလှူသောကောင်းမှုအား၊ မိုးနှောင်း သံထင်အခါကို၊ သဗ္ဗညုံအားနှင့် ပြည့်စုံသော၊ သူတော် ကောင်း သူမြတ်လောင်းဟို့ အရေးအရာယူရစ်ပေသော သူတို့အား၊ ဤလူ့ဘွင် အနာမရှိသည်ဖြစ်၍၊ အသက်ရှည် စွာနေရစေတည်း။”

---

မို ........ အဥ။

## မျ

**မျက်ညွတ်** ........ အသက် ၂၅ နှစ်ရွယ်ရှိ မိန်းမ။ (ဓမ္မသတ်စကား)။

**မျက်မည်း** ........ အသက် ၁၅နှစ်အရွယ်ရှိမိန်းမ။(၎င်း။)

**မျက်မှောင်** ........ ကြိုးနှင့်လက်ပြန်ချည်သည်။ လက်ပြန်ကြိုးချည်သည်။

**မျက်ရည်ချူ** ........ မျက်ရည်ယိုသည်။

**မျက်ရှင်** ........ ပတ္တမြားကျောက်။

**မျက်ဝန်း** ........ အသက် ၂၀ ရွယ်ရှိ မိန်းမ။ (ဓမ္မသတ်စကား)။

**မျစ်** ........ နုမျိုသော။

**မျဉ်း** ........ အိပ်သည်။ မရှင်မလန်း။ညှိုးနွမ်းသည်။

**များ** ........ မပါသား။(မ+ပါသား)။

**များဖြင်** .. .... အများ။များစွာ။

**မျောက်နှံ့** ........ နှံကော။နှံတံ။ပြောင်ဖေး။

**မျောက်မ** ........ လင်ငယ်။လင်ခေါင်။

**မျောက်မျဉ်း**........ ခဏအိပ်ပျော်သည်။ မျောက်အိပ်သကဲ့သို့ ခဏအိပ်ပျော်သည်။

**မျိုးသည်ရင်း**
**မျိုးသည်ရန်**
**မျိုးလွန်းကြင်** } မပါသား။(သည့်ရင်း။သည့်ရန်ကြည့်)။

# မြ

မြင်း ........ ဟောင်းနွမ်းသည်။
မြစ် ........ မြောက်အရပ်။ ။တားမြစ်သည်။
မြစ်ခမ်း ........ မြစ်ကမ်း။
မြစ်တား } တားမြစ်သည်။
မြစ်ထာ
မြစ်လောင်း ........ မြစ်ငယ်။
မြစ်အောက် ........ မြောက်အရပ်။
မြည့်မြည့် ........ ကျေညက်သည်။ချေးကျေသည်။
မြန်လူ ........ လူမိမ်း။လူသစ်။
မြိတ်လွတ် ........ တပတ်လျှို တပတ်ရစ်ဆံထုံး။(ရလည်းမှာ။ဦးစွန်းကိုကြက်တောင်စည်း၍ထုံးသော ဆံထုံးဖြစ်သည်။ ဦးစွန်းဟောပါဠိ–ရှဋ္ဌမှ လာဟန်ရှိသည်)။
မြွယ် ........ မြေ။ (ကျောက်စာ)။
မြေခေါင် ........ ရပ်ဝေး။
မြောက်မြို ........ မကောင်းသောကြွေးမြီ။
မြောက်မြေ } ဝတ်ကျေရုံမျှပြုသည်။
မြောက်မြေပိုင်
မြောင်းတူး ........ အသက် လေးဆယ် ရှယ်ရှိ မိန်းမ (မေ့ွသတ်)။

မြော် ........ မြင်မြော်သည်။
မြှိုင် ........ တော။

## မွ

မွန် ........ မြတ် ကောင်းမြတ်သည်။
မွန်း ........ နစ်သည်။မရှိုက်နိုင်မရှူနိုင်ဖြစ်သည်။
မွမ်း ........ ထပ်မံသည်။

မွမ်းဖြင်
မွမ်းဖြင်ညီး } များပြားသည်။
မွမ်းမျှ

မွယ်တာလ ........ နွယ်တာလ-ကြည့်။
မွေမွေ ........ ကျဉ်မြောင်းသည်။
မွေ့ ........ ပျော်ရွှင်စွာနေသည်။
မွေးသက် ........ မွေးနံ့။နံ့သောအမွေး။

## မှ

မှန်ကင်း ........ တုယောင်။ ။မြင့်မြတ်သော။ ။မြင့်မြတ်သောသူ။မြင့်မြတ်သောအရာ။
မှန်ထုပ် ........ လျှို့ဝှက်သည်။ ။အမှန်အကန်။
မှုတ်လော ........ မဟုတ်လော။
မှုတ်ဝါး ........ ပုလွေ။

**မှန်စား** ........ တိုက်တွန်း-နှိုးဆော်သည်။
**မှော်ခံတော်** ........ အသျှင်သခင်။
**မှိုံ** ........ နှစ်,လ,ရက်၊ ။နှစ်,လ,ရက်,တို့နှင့်
ယှဉ်သောစကား။
**မှိုံမှိုံ** ........ ထွားထွား။
**မှုံမှွား** ........ နစ်တုံပေါ်တုံ။

## မှ

**မျိုး** ........ မင်္ဂလာ။
**မျိုးသစ်**(ခေါ်သည်။ ပြုသည်)။ .... ဦးခေါင်းဆေးသည်။
ခေါင်းဆေးမင်္ဂလာပြုသည်။
**မြွယ်တာလ** ........ နွယ်တာလ–ကြည့်။

## ယ

**ယကင်** ယာဂင့်ကြည့်။

**ယခင်**
**ယခင့်** } ရှေး။ ရှေးအခါ။ လွန်ခဲ့သောအချိန်။

**ယခေါင်** ........ ရှည်မြင့်ဝေးလံသည်။ ။ရှည်မြင့်ဝေး
လံသောကာလ။ ။အတိတ်၊ အနာဂတ်
၂-ဖက်ရသည်။
**ယဂင်** ........ ဆံထုံး၊ ဥသျှောင်။ ဦးလုံး၊ ။အထုံး
အမြိတ်တွင်ဆင်ယာင်သောတန်ဆာ။

ယရည်း ........ ဆင်ထိန်း။
ယဉ် ........ ယာက် ကန်း။ ။(ယာည် ဟု လည်းတွေ့ရ၏)။
ယဉ်ခုံ ........ ယာက်ကန်းခုံ။
ယဉ်ခွန် ..... ယာက်ကန်းခွန်။
ယဉ်ပါး ........ ဆက်ဆန်ပေါင်းဖက်သည်။ ။ကာမစပ်ယှက်သည်။
ယည် ........ ရေ။
ယည်တုတ် ........ ရေစည်း။
ယည်ပေါင် ...... ရေ။ ရေပြင်။
ယမ်းပည်း
ယမ်းပဲ } ရှိသေသည်။
ယူးယူး ........ လုလု၊ထိလုလု၊လုဘန်နန်း၊ လုမတတ်။ နီးနီး။
**ယောက်ယား**........ ယောကျ်ား ( ငါတေးမသေမုကား။ ငါ့ ကျွန်ယောက်ယား မေးမ အကုန်လျှင်။ ဘုရားနှိုက်လှူခဲ့သတေး)။ သက္ကရာဇ်၆၃၁။ ဓမ္မရံ ဘုရားအရှေ့မျက်နှာကျောက်စာ။
ယောင်း ..... သွေ့ခြောက်သော။
ယိုယွက် ..... ယွင်းယိုသည်။ချွတ်ယွင်း-တိမ်းစောင်းဖေါက်လွဲသည်။

**ယိုးယား** ...... ယှိုးယှား။
**ယိုးယံ** ...... အမြဲမပြတ်။
**ယုံကြုံ** ...... ယုံကြည်သည်။
ယွက်**ယွက်ယွက်** –ယိုယွက်။
**ယွံ** ...... ယိုင်သည်။ နောက်သို့နစ်သည်။
ယှပ် ...... ခြေဖြင့်ခတ်သည်။
ယှိုး **ယှာ**။ ...... ရှောင်ရှားသည်၊ ရှောင်ကြဥ်သည်။

## ရ

**ရကင်း** ..... အဘိုးအနှုတ်သဘင်။
**ရဂုံ** ...... တော။
**ရထည်း**
**ရမထီး** } ...... ဝိတ်ထည်။ ဝိတ်ဖြူ၊ အပေါ် တင် ပုဆိုး။ ရုလျှား။
**ရဝေ** ...... နှန်း၊ နှန်းအိမ်၊ တိုက်ခန်း။
**ရက်ချည်း**
**ရက်ရက်** } – အလျှင်အမြန်။
**ရင်ကျည်**
**ရင်းကျည်** } - ညစ်နွမ်းသည်။ ချို့တဲ့ပျက်စီးသည်။
**ရင်းဆွဲ** ....... ထန်းသက်ရော။ ထန်းပင် အနှားပက်လ ဆွဲထားသောလှေကား။

ရန်း ........ အရှောင်။
ရန်း၊ ရန်းတား -ကာဆီးစောင့်ရှောက်ထားသည်။
ရပ်စေခံစာ ........ လုပ်နိုင် ကိုင်နိုင်သည့်အခါ လောက် သာစားဘို့ရသော အစာ။
ရမ်း ........ အဖမ်းသည်။ပေါ်သည်။
ရမ်းကား ........ စော်ကား·တျူးခဲ့ပြုသည်။
ရမ်းပဲ
ရမ်းဘဲ } အလေ့အကျင့်။
ရမ်းရမ်း ........ အားရနှစ်သက်သည်။
ရယ်ဖတ်
ရယ်အက် } ရယ်မောသည်။
ရာရူ ........ ချိန်ခွင်။
ရိယ် ........ ရေ။ (ကျောယ်စာ)။
ရိရှား ........ ဆင်းရဲပင်ပန်းသည်၊ နွမ်းရိသည်။
ရိပ်မြုံ ........ နေရာ။
ရု ........ ရောနှောသည်။
ရုတ်ချည်း
ရုတ်တရက်
ရုတ်ရက် } ချက်ချင်း။ အလျင်အမြန်
ရုတ် ရုတ် ........ ရုတ်ရုတ်ဟူသောအသံကိုပြုသည်။

ရှုန့်
ရှုန့်ကြမ်း } ကြမ်းတန်းသည်။
ရှုန့်ရင်း

ရှယ် ........ ခွေ့၊ ရှိ။ (ကျော်စွာ)။

ရေတံပြက် ........ ရေတိမ်။

ရေပေါ် ........ ရေပူ

ရေရှုတ် ....... ဆဲရေးတိုင်းထွာသည်။

ရဲတမ်းခွန် ....... ရထားအလဲ။

ရဲလံ ....... လှေအလဲ။

ရောရှု ....... ရောနှောသည်။ ပေါင်းယှဉ်သည်။
ပေါင်းစုသည်။ စေ့ဟာပ်သည်။

ရောင်ပြုသလွှင် - တန်ဆာဆင်သည်။

ရောင်းရင်း ....... ငယ် စဉ် က ပေါင်း သင်း လာ သူ
ငယ်ပေါင်း။

ရော် ....... ကြမ်း-ရင့်သည်။ ။ရည့်ရှုးသည်။

ရှိ
ရှိကျိုး } ....ခန့်ညားရှိသေသည်။

ရှိုးမယ် ....... မတော်မမှန်။

ရှိုးရင်း ....... အရိုးအရင်းပြုသည်။ မကွေ့ မကွာ ပြု
သည်။ ။ကြီး မှ ပေါင်း သင်း သော
မိတ်ဆွေ။

ရိုက်ကြည်း ........ ကျောဉ်ဟိန်းသည်။ တုန်လှုပ်၍မြည်သည်။
ရှိုင်းရိုင်းသောင်းသောင်း အများအပြား။ ။တရိုင်တစည်
တည်း။ အခုတ် အခုတ် ကျက် ကျက်။
ရိုင်းရိုင်း ........ ဖြောင့် မတ်စွာ။ ပွင့် ပွင့် ကြီး။ တည့်
မတ်စွာ။
ရိုင်းပင်း ........ ကူညီသည်။

## ရွ

ရွယ်လူး ........ အကလေး။ ။ပျိုနုသောသူ။
ရွံ"ရွံ့ ........ ကြောံသည်။

## ရှ

ရှိန်းပြိုး ........ အရှက်ရသည်။ ရှက်သည်။
ရှုယ် ........ ရွှေ။ (ရှုယ်ကြည့်ပါ)။
ရှဲ ........ ရှောင်ရှါသည်။
ရှဲခတ် ........ သစ်ပင်တို့ကို အချော တိုက်သောကိုက်။
တစည်း။ ရွှေပေါ်။ အဖျား။
ကောံသောဆောံပုတ်။

ရှောက် ........ ပြုတွယ်သည်။ ။လင်ငယ်။
ရှောက်စောင် — လင်စောင်။ လင်ငယ်။
ရှောက်ရွှာ ........ မိုးသီး။

**ရှောင်တခင်** ........အလျှင် အမြန်။အဆော တလျင်။ မြန်မြန်။
**ရှိုးရှား** ........ အကုံအစင်။

# ဠ

**ဠ ိယ်** ........ ရွှေ။ ဠုယ်-ဟုလည်းရေးသည်။ ကျောက်စာ)။
**ရွှေတောင်** ........ နန်း။
**ရွှေမှောက်** ........ မင်း။ ဘုရင်။ (တခါတရံ ဘုရားနှင့် စပ်၍လည်းသုံး၏။
**ရွှေအိမ်** ........ နန်းတော်။

# လ

**လတာ**
**လတာပြင်** } .....ကျယ်ပြန့်သောနေရာ။လွင်ပြင်။
**လတော** ........ အပြည့်ဘင်းကျမ်း။
**လမိုင်း** (**လကား-** လယ် လုပ်သူ။ နန်းတော် တွင် ကျွန် မိန်း ခ လေး မျိုး ဆိုင်ရာ။ (ငင်း လေး မျိုးကား။)
၁။ဝင့်သီး=ဒိုင်းငင့်ရသည်၊
၂။မိုင်းဒ =မိုင်းထောင့်ရသည်။

၃။ ယက် ကန်း — ယက်ကန်း ယက်ရသည်။
၄။ မောင်း ထောင်း — ဆန်စပါး ထောင်းဖွပ်ရသည်။

**လမြိတ်** ...... အမြိတ် အစွန်း။ အမြိတ် အစွန်း ချင်း ဆက်စပ် မိသည်။ ။တခု နှင့် တခု ဆက်မိသည်။ ။ဆက်မိသည်။

**လဟာ** ...... ဟင်း လင်း ဖြစ် သော။ ။ကျယ် ဝန်း သော လွင်ပြင်။ ။လဟာ။

**လက်ကြပ်** ...... လက် မောင်း၌ ဝတ် ဆင် သော လက်ကောက်တမျိုး။

**လက်ခက်** ...... သူခိုး။

**လက်ခက်** ...... ထွေ့မျှသည်။

**လက္ခီ** ...... ဘုန်းကြက်သရေရှိသူ။

**လက်ချားပလေ၊ ပလေလက်ချား** ...... ပေါ့လျော့စွာ ပြောဆိုသည်။

**လက်ငင်း** ...... အဆောတလျင်။ ချက်ချင်း။

**လက်ငံ** ...... လက်ဆောင်သည်။

**လက်တည်း** ...... လက်ပူးလက်ကြပ်။

**လတ်ပမ်း** ...... လက်ငွေ့။ ယခုလက်ငွေ့ ခေါ် သည်

**လက်မထောက်** - ရာဇဝတ် သင့်သူတို့ကို ချုပ်နှောင်ရာ အရပ်-တန်း။

**လက်မယှ်** ......လာ်ာ ရိုင်း-လက်ဆော့သူ၊သူခိုး။

**လက်မရှုံ့** ...... လှူသတ်သွား။အာဘာဘသား။ပ ံးကွက်။

**လက်မွန်** ...... ရှေးဦး စွာ။ ရှေးဦးရှေးဖျား။ ။လက်ကောင်း၊လက်တတ်၊ (လုပ်ထပ္ပန်းရန်။ လက်မွန်ချည်းချျင်။ သိပ် သည်း ဝိသ။ ဖြေနိုသရွတ်၊ ချုပ်လတ်နှယ်သို့။ ။ ရတနာစေတီကျောင်း ကျော်စာ။ ။ ဤတွင်၊လက်မြောက်သောပန်းရန်များ ဆိုလိုသည်)။

**လက်မျှော်** ...... ထန်းလက်ငယ် ပေါ်ထွက်ရ အရွယ်ရှိ ထန်းပင်ငယ်။

**လက်ရိုက်** ...... ဆောက်ပုတ်။

**လက်သင့်** ...... လက်ကျင့်သော(လှေ)။

**လက်သည်** ...... ပြုလုပ်သူ။ ။သူခိုး။ ။ဝမ်းဆွဲသည်။

**လင်မှီး** ...... လင်မယား။

**လင့်ကဲတဖြာ** ...... အရပ်ဂမျက်နှာ။ ။အရပ်ရှစ်မျက်နှာ တစပ်တည်း။ ။အရပ်ထက်ဝန်းကျင်။

**လင့်စီး** ...... ငုံလင့်သည်။

**လင်း** ...... ကဲလွန်မိုမိုခြင်း။ (မိုလင်း-ပြည့်လင်း)

**လင်းကွင်း** ...... ခွက်ခွင်း။

**လင်းပြောက်**....... ပြည့်လျှမ်းသည်။ (ယည့်ဘေးဘင်လင်း ပြေဘံ၊ မြစ်လျှေဘံအလုံး၊ ကိုင်းကျွန်းဖုံး လျှက်။ ။သူမွှေးခက်းပျို့)။

**လင်းယဉ်** ........ လှေသဘော်တို့တွင်တပ်ဆင်သောရွက်

**လင်းလေး** ........ ပစ်သောလေး။

**လင်းလျှပ်။လင်းလပ်**–တံလျှပ်၊နေရောင်လရောင်တို့ လျှပ် သဖြင့်၊ရေကဲ့သို့ထင်မြင်ရသောအလင်း ရောင်၊ဤတွင်၊ နေ့အခါတံလျှပ်၊ ညဥ့် အခါ လင်းလျှပ်ဟု အထူးအားဖြင့် လည်းမှတ်ရန်ရှိ၏)။

**လည်ညွှန့်** ........ ပခုံးညွှန့်၊ ဦးခေါင်း။

**လည်တောင်တင်**- ကုန်း။ခင်။ကုန်းခင်။ကုန်းမြင့်။

**လယ်တာ** ........ လယ်။

**လယ်နက်** ........ လယ်မှထွက်သောဥ ာ။

**လယ်သောံကန်** – ကန်ထောင်၊ လယ်ဦး လယ်တိပ်၌ ရှိ သော တဖက်ဆည်ကန်။

**လာလာပကာ** – လာလာသမျှ၊(......ဆန် တလက်ဖက်တို့ ကို တလနှစ်ခါဈေးရောင်းဝယ်သရုံ၊ လာလာပကာကောက်ရိုးတည်း။ ။ ပုဂံမြို့ဗောဓိဘုရားကျောက်စာ)။

**လား** ........ သွားသည်။

**လောင်လင်** ........ မငြိမ်မဆိမ်-ဂယောက်ဂယက်ဖြစ်၏။
ကျွမ်းလောင်—ပူဆွေးသည်။

**လောင်းရှိုးလက်သင်**—လှေကို နေရာတကျ လှော်တတ်အောင် လက်ကျင့်ရသောလှေလောင်း။

**လံပါ။လံပါး**........ဖျဉ်းအိုး။ အင်စောက်၊(စောက်ရှိသော အင်သို့မဟုတ် အိုး။ ။အင်းစောက်-ဟုဝတ္ထုနှစ်လုံးပေါက်နှင့်မဖတ်နှင့်။)

**လုံးပမ်း** ...... ကြိုးစားအားထုတ်သည်။

**လုံးသီးလုံးပေါ**— တမ်းစေ့ရုံ၊တမ်းစေ့ကာ၊သဘောမီရုံမျှ။

## လျ

**လျ** ...... ပါးသည်၊နည်းသည်။

**လျကြည်း** ...... ကိုယ်ဟန်သေးသွယ်သည်။ ။ပုံပန်းအမူအရာ လကျွဏာ ပြေပြစ်ပျောင်းယဉ်ကျေးသည်။

**လျင်ခုစ်**
**လျင်ဆော**
**လျင်လျား**
**လျစ်လျစ်**
} မြန်မြန်။အမြန်။

**လျာ** ........ တခဏ၊ တသက်လျာ။ ။အလာင်း အလျား။

**လျား** ........ ရှည်သည်၊ကြာမြင့်သည်။ ။ပါးသည်။

**လျော** ...... သူ့အလိုသို့လိုက်-လိုက်လျောသည်။ ။ တူတမျှရှိသည်၊ မထူးမခြားရှိသည်။
**လျောလျား** ...... တူတမျှရှိသည်။
**လျောက်ပတ်** ...... သင့်လျော်သည်။
**လျောက်လျား**...... အလိုအလျောက်။
**လျောင်** ...... အရှည်။

# လွ

**လွတ်ချည်း** ...... ရုတ်တခြက်၊ ဖြုတ်ချည်း၊ အဆောတလျင်။
**လွေ့လွေ့** ...... များများ။ ဖြောဖြော၊ (တွေ့တွေ့တည့်)။

# လှ

**လှင်ကန်** } ...... တုတ်၊ တံပြာ၊နှင်တံ၊ (ကန်မှာ၊ပါဠိကဏ္ဍ-မှလာသည်)။
**လှင်တံ** }
**လှနကန်** ...... တိုးပွားသည်။
**လှပ်လှပ်** ...... လျင်မြန်စွာ။
**လှာလှာ** ...... ပါးပါးလွှာလွှာ၊ပိန်ပိန်ပါးပါး။
**လှီလွှဲ၊လှီးလွှဲ**...... တိမ်းရှောင်သည်။
**ဟုဟု** ...... အလျင်အမြန်။ ။ရွှန်းလင်ဝမ်းမြောက်စွာ။ ။ထက်သန်စွာ။

